ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၆၈/၂၀၁၈ ၂၀၁၈ ခုနှစ် ၊ မတ်လ ၂၇ ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည်** ဦးဇော်ဝင်း

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၂၉၅)၊ အခန်းအမှတ် (အေ-၄)၊ မြို့မကျောင်းလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** ကွင်းအမှတ်-၂၁၄+၂၁၅ တောင်ဘီလူးအရှေ့+တောင်ဘီလူးကွင်း၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၂၀.၉၆ ဧက၊ ကွင်းအမှတ်-၂၁၄ တောင်ဘလူအရှေ့၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၅၇.၀၁ ဧက၊ ကွင်းအမှတ်- ၂၂၈ ကျောက်တန်းကွင်း၊ ရှမ်းတောင်ဦးကျေးရွာအုပ်စုရှိ မြေဧရိယာ ၁.၉၃ ဧကနှင့် ကွင်းအမှတ်-၂၁၈က၊ ကုလားကျောင်းကျေးရွာအုပ်စု၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၃၄.၄၆ ဧက စုစုပေါင်း ၃၁၄.၃၆ ဧက [စက်မှုဝန်ကြီးဌာန၊ အမှတ် ၂ အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)]

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၈၆,၃၁၃ သန်း (အမေရိကန်ဒေါ်လာ ၂၇.၄၁ သန်းအပါအဝင် စုစုပေါင်း ကျပ်သန်းရှစ်သောင်းခြောက်ထောင်သုံးရာတစ်ဆယ့်သုံးတိတိ)

(၁၁) **တည်ဆောက်မှုကာလ** ၁ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၂၅ နှစ်

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** INTERNATIONAL GLASS COMPANY LIMITED (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီလီမိတက်)

27.3.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၈
🖶 ၀၁-၆၅၈၁၃၄

စာအမှတ်၊မရက-၃/ခ-၀၀၈/၂၀၁၈ ( ၀၂၇ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ်လ ၂၄ ရက်

အကြောင်းအရာ။ **International Glass Company Limited (အင်တာနေရှင်နယ် ဂလာ့(စ်)ကုမ္ပဏီလီမိတက်) ၏ မှန်နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ International Glass Company Limited (အင်တာနေရှင်နယ် ဂလာ့(စ်)ကုမ္ပဏီလီမိတက်) ၏ (၉-၂-၂၀၁၇) ရက်စွဲပါစာ

၁။ International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) မှ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ကွင်းအမှတ်- ၂၁၄+၂၁၅ တောင်ဘီလူးအရှေ့+ တောင်ဘီလူးကွင်း၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၂၀.၉၆ ဧက၊ ကွင်းအမှတ်-၂၁၄ တောင်ဘလူအရှေ့ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၅၇.၀၁ ဧက၊ ကွင်းအမှတ်- ၂၂၈ ကျောက်တန်းကွင်း၊ ရှမ်းတောင်ဦးကျေးရွာအုပ်စုရှိ မြေဧရိယာ ၁.၉၃ ဧကနှင့် ကွင်းအမှတ်-၂၁၈က၊ ကုလားကျောင်းကျေးရွာအုပ်စု၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၃၄.၄၆ ဧက စုစုပေါင်း ၃၁၄.၃၆ ဧက (၁,၂၇၂,၁၇၀.၉၁ စတုရန်းမီတာ) [အမှတ်(၃၆) အကြီးစားစက်ရုံ (ကျောက်ဆည်)] တွင် မှန်နှင့် ဆက်စပ်ပစ္စည်း များထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၈ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၁၈) ကြိမ်မြောက် အစည်း အဝေးသို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံး လျက် International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) အား မှန်နှင့် ဆက်စပ်ပစ္စည်းများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၆၈/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ၂၅ (နှစ်ဆယ့်ငါး) နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဖြစ်သည်။

(ခ) လုပ်ငန်း၏ မြေငှားသက်တမ်းကာလမှာ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အရ ၂၀၁၇ ခုနှစ် မတ်လ ၃၁ ရက်နေ့မှစ၍ ကနဦး ၂၅ နှစ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ဖြင့် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့်ဆောင်ရွက်နိုင်မည်ဖြစ်သည်။

(ဂ) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ဃ) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(င) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း(၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment - EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(ဆ) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဇ) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဈ) International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ International Glass Company Limited (အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

27.3.18

(ကျော်ဝင်း)
ဥက္ကဋ္ဌ

**International Glass Company Limited**
**(အင်တာနေရှင်နယ်ဂလာ့(စ်) ကုမ္ပဏီလီမိတက်)**
**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
မန္တလေးတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ကန့်သတ်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် International Glass Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - International Glass Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးဇော်ဝင်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဦးဇော်ဝင်း (မြန်မာ) ၇၅ %<br>- ဦးစိုင်းအောင်စိုး (မြန်မာ) ၂၅ % |
| | လုပ်ငန်းအမျိုးအစား | - မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ်-၂၁၄+၂၁၅ တောင်ဘီလူးအရှေ့+တောင်ဘီလူးကွင်း၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၂၀.၉၆ ဧက၊ ကွင်းအမှတ်-၂၁၄ တောင်ဘလူအရှေ့၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၅၇.၀၁ ဧက၊ ကွင်းအမှတ်- ၂၂၈ ကျောက်တန်းကွင်း၊ ရှမ်းတောင်ဦးကျေးရွာအုပ်စုရှိ မြေဧရိယာ ၁.၉၃ ဧက နှင့်ကွင်းအမှတ်-၂၁၈က၊ကုလားကျောင်းကျေးရွာအုပ်စု၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၃၄.၄၆ ဧက စုစုပေါင်း ၃၄၁.၃၆ ဧက [အမှတ်(၃၆)အကြီးစားစက်ရုံ (ကျောက်ဆည်)] |
| ၃။ | မြေပိုင်ရှင် | - အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန |
| | မြေနှင့်အဆောက်အဦ | - ၃၁၄.၃၆ ဧက (၁,၂၇၂,၁၇၀.၉၁စတုရန်းမီတာ) |
| | အကျယ်အဝန်း | - အဆောက်အဦ ၉၂ လုံး |
| | နှစ်စဉ်မြေ/အဆောက်အဦ၊ စက်ပစ္စည်းနှင့် အခြားပုံသေပိုင်ပစ္စည်းများငှားရမ်းခ | - ကျပ် ၁,၅၀၀.၀၀ သန်း |
| | Performance Bank Guarantee | - ကျပ် ၁၅၀.၀၀ သန်း |
| | Machinery Security Guarantee | - ကျပ် ၃,၀၀၀.၀၀ သန်း |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ကနဦး ၂၅ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦး ၂၅ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |

ကန့်သတ်

| | | | | | |
|---|---|---|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၈၆,၃၁၃ သန်း (US$ ၂၇.၄၁ သန်း အပါအဝင်) | | | |
| | ထည့်ဝင်သည့်အမျိုးအစား | **ကျပ် (သန်း)** | | | |
| | ငွေသား | ၄၄,၂၁၃ | | | |
| | စက်ပစ္စည်း | ၃၄,၈၈၀ (US$ ၂၅.၈၄ သန်း) | | | |
| | မြေနှင့်အဆောက်အအုံ | ၅,၁၀၀ | | | |
| | ငှားရမ်းခ | | | | |
| | အခြား (လုပ်ငန်းသုံးယာဉ်) | ၂,၁၂၀ (US$ ၁.၅၇ သန်း) | | | |
| | **စုစုပေါင်း** | **၈၆,၃၁၃ (US$ ၂၇.၄၁ သန်း အပါအဝင်)** | | | |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၇၄ % ၊ ပြည်ပ ၂၆ % | | | |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | **ပြည်တွင်း ၇၄ %** | | **ပြည်ပ ၂၆ %** | |
| | | **ထုတ်လုပ်မှု (Ton)** | **ရောင်းဈေးနှုန်း (ကျပ်/Ton)** | **ထုတ်လုပ်မှု (Ton)** | **ရောင်းဈေးနှုန်း (US$/Ton)** |
| | **Clear Glass** | | | | |
| | 4 ' x 6 ' x 3 mm | ၅,၉၂၀ | ၃၈၈,၀၀၀ | ၂,၀၈၀ | ၂၈၇.၄၁ |
| | 4 ' x 6 ' x 4 mm | ၅,၁၈၀ | ၃၆၅,၀၀၀ | ၁,၈၂၀ | ၂၇၀.၃၇ |
| | 4 ' x 6 ' x 5 mm | ၅,၁၈၀ | ၃၂၈,၀၀၀ | ၁,၈၂၀ | ၂၄၂.၉၆ |
| | 59 " x 79 " x 5 mm | ၁,၄၈၀ | ၃၃၅,၀၀၀ | ၅၂၀ | ၂၄၈.၁၅ |
| | 6 ' x 8 ' x 5 mm | ၄,၄၄၀ | ၃၅၂,၀၀၀ | ၁,၅၆၀ | ၂၆၀.၇၄ |
| | **Solar Green Glass** | | | | |
| | 4 ' x 6 ' x 3 mm | ၅,၁၈၀ | ၅၀၈,၀၀၀ | ၁,၈၂၀ | ၃၇၆.၃၀ |
| | 4 ' x 6 ' x 4 mm | ၄,၄၄၀ | ၄၉၂,၀၀၀ | ၁,၅၆၀ | ၃၆၄.၄၄ |
| | 4 ' x 6 ' x 5 mm | ၄,၀၇၀ | ၄၆၅,၀၀၀ | ၁,၄၃၀ | ၃၄၄.၄၄ |
| | **Color Glass** | | | | |
| | 4 ' x 6 ' x 3.5 mm | ၁,၁၁၀ | ၄၀၄,၀၀၀ | ၃၉၀ | ၂၉၉.၂၆ |
| | 4 ' x 6 ' x 4 mm | ၁,၁၁၀ | ၄၀၂,၀၀၀ | ၃၉၀ | ၂၉၇.၇၈ |
| | 4 ' x 6 ' x 5 mm | ၁,၁၁၀ | ၃၉၅,၀၀၀ | ၃၉၀ | ၂၉၂.၅၉ |
| | 6 ' x 8 ' x 6 mm | ၇၄၀ | ၄၄၅,၀၀၀ | ၂၆၀ | ၃၂၉.၆၃ |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | **ပြည်တွင်း** / **ပြည်ပ**<br>**ဝန်ထမ်းဦးရေ** ၅၀၀ ဦး / ၃၀ ဦး<br>**အမြင့်ဆုံးလစာ** ကျပ် ၄၀၀,၀၀၀ / US$ ၁,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀ / US$ ၁,၄၀၀<br>- စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူသည့် ဝန်ထမ်းအင်အားမှာ ၂၂၄ ဦး ဖြစ်ပါသည်။<br>- ၁ US$ = ၁,၃၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- International Glass Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ်- ၁၄၉/၂၀၁၅-၂၀၁၆ (ရက) (၉-၄-၂၀၁၅) နှင့် ငွေကြေးအထောက်အထားအဖြစ် Kanbawza Bank (Mandalay-1 Branch) တွင် ၅-၂-၂၀၁၈ နေ့စွဲဖြင့် ကျပ် ၄၁၄,၄၁၀,၄၀၂.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ စက်ရုံအား ၂၀၁၇ ခုနှစ် မတ်လ ၃၁ ရက်နေ့တွင် စတင်ငှားရမ်းခဲ့ပါသည်။<br>- စက်ရုံငှားရမ်းသက်တမ်းအား ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၆) ၂၂-၉-၂၀၁၆ ဖြင့် ကနဦး ၂၅ နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဖြင့် သဘောတူ ခွင့်ပြုခဲ့ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စက်မှုဝန်ကြီးဌာနမှ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြင့် ငှားရမ်းသက်တမ်းတိုးမြှင့်ခြင်းအတွက် စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၂၄/၂၀၁၇-၂၀၁၈) မှ သဘောတူခွင့်ပြုခဲ့ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2310 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန် (၂) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၁၈/၂၀၁၈( ၀၁၈ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ်လ ၁၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် International Glass Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးဇော်ဝင်း မှ ၇၅% နှင့် ဦးစိုင်းအောင်စိုး မှ ၂၅ % ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် International Glass Company Limited မှ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ကွင်းအမှတ်-၂၁၄+၂၁၅ တောင်ဘီလူးအရှေ့+တောင်ဘီလူးကွင်း၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၂၀.၉၆ ဧက၊ ကွင်းအမှတ်-၂၁၄ တောင်ဘလူအရှေ့ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၅၇.၀၁ ဧက၊ ကွင်းအမှတ်- ၂၂၈ ကျောက် တန်းကွင်း၊ ရှမ်းတောင်ဦးကျေးရွာအုပ်စုရှိ မြေဧရိယာ ၁.၉၃ ဧကနှင့် ကွင်းအမှတ်-၂၁၈၈၊ ကုလားကျောင်းကျေးရွာအုပ်စု၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၃၄.၄၆ ဧက စုစုပေါင်း ၃၁၄.၃၆ ဧက (၁,၃၈၁,၄၃၆.၁၃ စတုရန်းမီတာ) [အမှတ်(၃၆) အကြီးစားစက်ရုံ (ကျောက်ဆည်)] တွင် မှန်နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနနှင့် International Glass Company Limited တို့အကြားချုပ်ဆိုထားသည့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ်၊ မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦဓာတ်ပုံများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲ တင်ပြထားပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနနှင့် International Glass Company Limited တို့အကြားချုပ်ဆိုထားသည့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ်၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦဓာတ်ပုံများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၁၂/၂၀၁၆ (၂၂-၉-၂၀၁၆) အရ ငှားရမ်းမှုသက်တမ်း ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂

ကြိမ် ခွင့်ပြုထားပါသည်။ မြေနှင့် အဆောက်အဦငှားရမ်းခမှာ မြေဧရိယာ ၃၁၄.၃၆ ဧက (၁,၂၇၂,၁၇၀.၉၁ စတုရန်းမီတာ) အတွက် ကျပ် ၁,၅၀၀.၀၀ သန်း ဖြစ်ပါသည်။ Performance Bank Guarantee မှာ နှစ်စဉ် မြေငှားရမ်းခ၏ ၁၀ % ဖြစ်သည့် ကျပ် ၁၅၀.၀၀ သန်း ဖြစ်ပြီး Machinery Security Guarantee မှာ ကျပ် ၃,၀၀၀ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၂၅ နှစ်နှင့် ၅ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၈၆,၃၁၃ သန်း (US$ ၂၇.၄၁ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | **ကျပ် (သန်း)** |
|---|---|
| ငွေသား | ၄၄,၂၁၃ |
| စက်ပစ္စည်း | ၃၄,၈၈၀ (US$ ၂၅.၈၄ သန်း) |
| မြေနှင့်အဆောက်အအုံ ငှားရမ်းခ | ၅,၁၀၀ |
| အခြား (လုပ်ငန်းသုံးယာဉ်) | ၂,၁၂၀ (US$ ၁.၅၇ သန်း) |
| **စုစုပေါင်း** | **၈၆,၃၁၃ (US$ ၂၇.၄၁ သန်း အပါအဝင်)** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၅၀၀ ဦးနှင့် ပြည်ပဝန်ထမ်း ၃၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၃၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၄၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော မှန်အမျိုးမျိုးကို ပြည်တွင်း၌ ၇၄% ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၂၆% တင်ပို့မည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများအား နောက်ဆက်တွဲဖြင့်တင်ပြအပ်ပါသည်။

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့မှ** ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan- EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်ပြန်ကြားထားပါသည်။ **သတ္တုတွင်းဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့မှ** ကုန်ချောထုတ်လုပ်မှုအတွက် ကုန်ကြမ်းလုံလောက်မှုရှိကြောင်း ပြန်ကြားထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် International Glass Company Limited သည် ၅-၂-၂၀၁၈ နေ့စွဲဖြင့် Kanbawza Bank (Mandalay-1 Branch) တွင် ကျပ် ၄၁၄,၄၁၀,၄၀၂.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆(ဃ)အရ နိုင်ငံတော်ပိုင်မြေနှင့် အဆောက်အဦများ အသုံးပြုသည့် လုပ်ငန်းဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများဇုန်(၂)တွင် ပါဝင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၄/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး အစည်းအဝေးတွင် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းသည် လက်ခံဆောင်ရွက်သင့်သည့်လုပ်ငန်းဖြစ်ကြောင်းဆွေးနွေးခဲ့ပါသည်။

(စ) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ်တွင် မြေငှားရမ်းခနှုန်းထားအား ၂ နှစ် ၁ ကြိမ် ပြန်လည်သုံးသပ်နိုင်ပြီး စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက်ရယူ၍ နောက်ဆုံးငှားရမ်းခ၏ ၂ % အထက် တိုးမြှင့် ပြင်ဆင်သတ်မှတ်နိုင်သည်ဟု ဖော်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ မြန်မာ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် International Glass Company Limited မှ မှန်နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ



Int'l Glass (MIC memo) update

နောက်ဆက်တွဲ

| အမျိုးအစား | ပြည်တွင်းရောင်း ၇၄ % | | ပြည်ပပို့ ၂၆ % | |
|---|---|---|---|---|
| | ထုတ်လုပ်မှု (Ton) | ရောင်းဈေးနှုန်း (ကျပ်/Ton) | ထုတ်လုပ်မှု (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
| **Clear Glass** | | | | |
| 4 ' x 6 ' x 3 mm | ၅,၉၂၀ | ၃၈၈,၀၀၀ | ၂,၀၈၀ | ၂၈၇.၄၁ |
| 4 ' x 6 ' x 4 mm | ၅,၁၈၀ | ၃၆၅,၀၀၀ | ၁,၈၂၀ | ၂၇၀.၃၇ |
| 4 ' x 6 ' x 5 mm | ၅,၁၈၀ | ၃၂၈,၀၀၀ | ၁,၈၂၀ | ၂၄၂.၉၆ |
| 59 " x 79 " x 5 mm | ၁,၄၈၀ | ၃၃၅,၀၀၀ | ၅၂၀ | ၂၄၈.၁၅ |
| 6 ' x 8 ' x 5 mm | ၄,၄၄၀ | ၃၅၂,၀၀၀ | ၁,၅၆၀ | ၂၆၀.၇၄ |
| **Solar Green Glass** | | | | |
| 4 ' x 6 ' x 3 mm | ၅,၁၈၀ | ၅၀၈,၀၀၀ | ၁,၈၂၀ | ၃၇၆.၃၀ |
| 4 ' x 6 ' x 4 mm | ၄,၄၄၀ | ၄၉၂,၀၀၀ | ၁,၅၆၀ | ၃၆၄.၄၄ |
| 4 ' x 6 ' x 5 mm | ၄,၀၇၀ | ၄၆၅,၀၀၀ | ၁,၄၃၀ | ၃၄၄.၄၄ |
| **Color Glass** | | | | |
| 4 ' x 6 ' x 3.5 mm | ၁,၁၁၀ | ၄၀၄,၀၀၀ | ၃၉၀ | ၂၉၉.၂၆ |
| 4 ' x 6 ' x 4 mm | ၁,၁၁၀ | ၄၀၂,၀၀၀ | ၃၉၀ | ၂၉၇.၇၈ |
| 4 ' x 6 ' x 5 mm | ၁,၁၁၀ | ၃၉၅,၀၀၀ | ၃၉၀ | ၂၉၂.၅၉ |
| 6 ' x 8 ' x 6 mm | ၇၄၀ | ၄၄၅,၀၀၀ | ၃၉၀ | ၃၂၉.၆၃ |

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၄/၇၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

M-162
23/2/18

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **International Glass Company Limited မှမှန်နှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၀၈/ ၂၀၁၈(၀၇၁)

၁။ မြန်မာနိုင်ငံသား ဦးဇော်ဝင်းမှ ၇၅% နှင့် ဦးစိုင်းအောင်စိုးမှ ၂၅% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် International Glass Company Limited တည်ထောင်၍ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင်ကွင်းအမှတ်- ၂၁၄+၂၁၅ တောင်ဘီလူးအရှေ့+တောင်ဘီလူးကွင်း၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၂၀.၉၆ ဧက၊ ကွင်းအမှတ် ၂၁၄ တောင်ဘီလူးအရှေ့၊ ကုလားကျောင်းကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၅၇.၀၁ ဧက၊ ကွင်းအမှတ်- ၂၂၈ ကျောက်တန်းကွင်း၊ ရှမ်းတောင်ဦးကျေးရွာအုပ်စုရှိ မြေဧရိယာ ၁.၉၃ ဧကနှင့် ကွင်းအမှတ်- ၂၁၈(က)၊ ကုလားကျောင်းကျေးရွာအုပ်စု၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၃၄.၄၆ ဧက စုစုပေါင်း ၃၄၁.၃၆ ဧက (၁,၃၈၁,၄၃၄.၇၆ စတုရန်းမီတာ)(အမှတ်-၃၆၊ အကြီးစားစက်ရုံ(ကျောက်ဆည်) တွင်မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) စက်မှုဝန်ကြီးဌာန၊ အမှတ်- ၂ အကြီးစားစက်မှုလုပ်ငန်းနှင့် International Glass Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများကိုငှားရမ်းသည့် သဘောတူစာချုပ် ဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းကို မြေ (၂၀,၂၃၄ စတုရန်းမီတာ) ရှိ အဆောက်အဦ (၉၂) လုံးကို ပြုပြင်မွမ်းမံခြင်းပြုလုပ်ကာ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် နှစ်စဉ်မှန်ကုန်ချောတန်ချိန် (၆၀၀၀၀) ခန့်ထုတ်လုပ်မည်ဖြစ်ကာ၊ ရေအသုံးပြုမှုအနေဖြင့်နှစ်စဉ် (၇၃,၁၈၂,၅၀၀) ဂါလံအသုံးပြု၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ကျန်းမာရေး၊ လူမှုရေးနှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်များကို Green Myanmar Environmental Services Co., Ltd. သို့အပ်နှံကာလုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) International Glass Company Limited မှမှန်နှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့်မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့်စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းမှထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများ၊ စွန့်ပစ်ပစ္စည်းများ၊ အသံဆူညံမှုများနှင် toxic compound များကြောင့်ပတ်ဝန်းကျင် မြေထု/ ရေထု ညစ်ညမ်းခြင်းနှင့် လုပ်သားများ၏ ကျန်းမာရေးကို ထိခိုက်စေခြင်း၊

(ဃ) ထို့အပြင်မှန်(Glass)သည်ဆီလီကွန်အခြေခံသည့် ကုန်ပစ္စည်းဖြစ်သောကြောင့် ၎င်းမှထွက်ရှိသည့် အမှုန်အမွှားများရှူမိပါကအသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများနှင့်အဆုတ်ရောဂါများဖြစ်ပွားနိုင်ခြင်း၊ ယင်းအမှုန်အမွှားများ မျက်စိထဲဝင်ပါကမျက်စိနီခြင်း၊ ယားယံခြင်းနှင့် အမြင်အာရုံမှုန်ဝါးခြင်း၊ အရေပြားနှင့်ထိပါက အရေပြားယားယံခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုနှင့် ကျန်းမာရေးဆိုင်ရာပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ International Glass Company Limited မှ မှန်နှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ် စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင် ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသား တင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ် များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံ ကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံ စာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွား မည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦး စီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည် ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအ ပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင် ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြ ရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

ရန်ကုန်မြို့

စာအမှတ်၊ ၀၃ / MIC (OSS) / ၂၀၁၈

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၂ ရက်

သို့

အဆိုပြုချက်စိစစ်ရေးအဖွဲ့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.205
12/3/18

အကြောင်းအရာ။ **International Glass Company Limited ၏ လုပ်ငန်းအဆိုပြုချက်အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၉-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ခ-၀၀၈/၂၀၁၈(၀၁၁)

အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းချက်ပါစာအရ International Glass Company Limited ၏ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်ရန် တင်ပြထားသည့် ကုန်ကြမ်းပမာဏ လုံလောက်မှု ရှိ-မရှိအပေါ် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားပေးရန်ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် တင်ပြထားသည့် ကုန်ကြမ်းပစ္စည်းများမှာ စိစစ်တွေ့ရှိချက်အရ လုံလောက်မှုရှိသော်လည်း ခွင့်ပြုမိန့်ပါစည်းကမ်းချက်များ၊ လုပ်ငန်းသဘောတူစာချုပ်ပါအချက်များ၊ မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ အမှတ်(၁)သတ္တုတွင်းလုပ်ငန်းမှတဆင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ခွင့်ပြုချက် ရယူဆောင်ရွက်ရန် လိုအပ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

အေးချမ်း

လက်ထောက်ညွှန်ကြားရေးမှူး

အဖွဲ့ခေါင်းဆောင်(သတ္တုတွင်းဦးစီးဌာန)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့(OSS)

မိတ္တူကို

သတ္တုတွင်းဦးစီးဌာန(ရုံးချုပ်)၊နေပြည်တော်

ရုံးလက်ခံ/မျှောစာတွဲ

INTERNATIONAL GLASS CO. LTD.
No.
Date

# International Glass Company Limited

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

သို့

စက်မှုဝန်ကြီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းအောက်ရှိ

အမှတ်(၃၆)အကြီးစားစက်ရုံ (မှန်စက်ရုံ-ကျောက်ဆည်) အား
ငှားရမ်း၍

## International Glass Co.,Ltd မှ

မှန်နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း

လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာ

ရက်စွဲ ။ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၉ )ရက်

INTERNATIONAL GLASS CO., LTD.
No.............
Date.............

# မာတိကာ

၂၁။ အလုပ်အကိုင်ရရှိမှု အခြေအနေ

၂၂။ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ဆောင်ရွက်ထားရှိမှုအခြေအနေ တင်ပြခြင်း

၂၃။ လျှပ်စစ်ဓာတ်အား အသုံးပြုခြင်းနှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း

၂၄။ မီးဘေးကာကွယ်ရေးအစီအမံများတင်ပြခြင်း

၂၅။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်

၂၆။ ပတ်ဝန်းကျင်သာယာလှပစေရန် ဆောင်ရွက်ထားရှိမှုအခြေအနေတင်ပြခြင်း

၂၇။ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

၂၈။ C.S.R ရံပုံငွေထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

၂၉။ လုပ်ငန်းလည်ပတ် ဆောင်ရွက်မည့်ကာလအား ဝန်ခံကတိပြုခြင်း

၃၀။ မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

၃၁။ ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်

၃၂။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်

၃၃။ အမှတ်(၃၆)အကြီးစားစက်ရုံအကွက်ချပုံစံ

၃၄။ ထုတ်လုပ်မှုအဆင့်ဆင့်

၃၅။ ငှားရမ်းသည့် သဘောတူစာချုပ်

၃၆။ ကနဦးပတ်ဝန်းကျင်ဆိုင်ရာ လေ့လာဆန်းစစ်ခြင်း အကျဉ်းချုပ်အစီရင်ခံစာ

၃၇။ International Glass Co.,Ltd ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂)၂၀၁၇- ၂၀၁၈( ၂၆၃၁ )
ရက် စွဲ၊ ၂၀၁၇ ခုနှစ် ၊ ဒီဇင်ဘာလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)အား International Glass Co., Ltd. သို့နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)အား ၂၂.၉.၂၀၁၆ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၂/၂၀၁၆) ၏ သဘောတူခွင့်ပြုချက်အရ International Glass Co., Ltd. သို့ ၃၁.၃.၂၀၁၇ ရက်နေ့မှစ၍ (၂၅+၅+၅)နှစ် ငှားရမ်းဆောင်ရွက်လျက်ရှိပါသည်။

၂။ ကုမ္ပဏီအနေဖြင့် အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)တွင် ပြည်တွင်းဖြစ်မှန်နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသဖြင့် ငှားရမ်းသက်တမ်း(၂၅+၅+၅)နှစ် အစား (၅၀+၁၀+၁၀)နှစ်ဖြင့် သက်တမ်းတိုးမြှင့်ရေးကိစ္စကို စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၂၄/၂၀၁၇-၂၀၁၈)မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၃။ သို့ပါ၍ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၃၆) အကြီးစားစက်ရုံ(ကျောက်ဆည်)အား International Glass Co., Ltd. သို့ ငှားရမ်း သက်တမ်း(၂၅+၅+၅)နှစ်အစား (၅၀+၁၀+၁၀)နှစ်ဖြင့် သက်တမ်းတိုးမြှင့်ငှားရမ်း ဆောင်ရွက် ခွင့်ပြုနိုင်ပါရန် ကုမ္ပဏီ၏အဆိုပြုလွှာအား ပူးတွဲပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

International Glass Co., Ltd.
No. ............
Date. ............

# INTERNATIONAL GLASS CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့ ။

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ( ၉ )ရက်

အကြောင်းအရာ ။ ။ **စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းလက်အောက်မှ အမှတ်(၃၆)အကြီးစားစက်ရုံ (ကျောက်ဆည်)မှန်စက်ရုံရှိ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းပြီး မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာပေးပို့ခြင်း။**

၁။ ကျွန်တော်များ International Glass Co.,Ltd သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင်အကွာ၊ စက်မှုနယ်မြေ၊ ယင်းစွဲတောင်ခြေအနီးရှိ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းလက်အောက်မှ အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)၊ မြေ (၃၁၄. ၃၆)ဧက၊ အဆောက်အဦများ၊ စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ကနဦး(၂၅)နှစ်နှင့် သက်တမ်းတိုး (၅)နှစ် (၂)ကြိမ်ဖြင့် ငှားရမ်းပြီး မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ သို့ပါ၍ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်နှင့် စိစစ်ပေးနိုင်ပါရန် လေးစားစွာ ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Zaw Win
Managing Director
International Glass Co.,Ltd

No. 17, Between 81st & 82th Street, 22th Street, Palae Ngwe Yaung Quarter,
Aung Myay Thar Zan Township, Mandalay. Tel: 95-9-5178939

INTERNATIONAL GLASS CO., LTD.
No...............
Date.............

# INTERNATIONAL GLASS CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့ ။

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ( ၉ )ရက်

အကြောင်းအရာ ။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ ကျွန်တော်များ International Glass Co.,Ltd သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင်အကွာ၊ စက်မှုနယ်မြေ၊ ယင်းစွဲတောင်ခြေအနီးရှိ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းလက်အောက်မှ အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)၊ မြေ (၃၁၄. ၃၆)ဧက၊ အဆောက်အဦများ၊ စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ကနဦး(၂၅)နှစ်နှင့် သက်တမ်းတိုး (၅)နှစ် (၂)ကြိမ်ဖြင့်ငှားရမ်းပြီး မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၂။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ် ပါသည် -

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်
( ခ ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ
( ဂ ) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်းများ
(ဃ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ
( င ) အမှတ်(၃၆)အကြီးစားစက်ရုံ (ကျောက်ဆည်)ရှိ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်း များအား ငှားရမ်းသည့်သဘောစာချုပ်

လေးစားစွာဖြင့်

U Zaw Win
Managing Director
International Glass Co.,Ltd

No. 17, Between 81st & 82th Street, 22th Street, Palae Ngwe Yaung Quarter,
Aung Myay Thar Zan Township, Mandalay. Tel: 95-9-5178939

INTERNATIONAL GLASS CO., LTD.
No..............
Date..............

INTERNATIONAL GLASS CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့ ။

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ( ၉ )ရက်

အကြောင်းအရာ ။ ။ **စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းလက်အောက်မှ အမှတ်(၁၆)အကြီးစားစက်ရုံ (ကျောက်ဆည်)မှန်စက်ရုံရှိ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းပြီး မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ကတိဝန်ခံချက် တင်ပြခြင်း။**

၁။ ကျွန်တော်များ International Glass Co.,Ltd သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင်အကွာ၊ စက်မှုနယ်မြေ၊ ယင်းစွဲတောင်ခြေအနီးရှိ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းလက်အောက်မှ အမှတ်(၁၆)အကြီးစားစက်ရုံ(ကျောက်ဆည်)၊ မြေ (၁၁၄. ၁၆)ကော၊ အဆောက်အဦများ၊ စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ကနဦး (၂၅)နှစ်နှင့် သက်တမ်းတိုး (၅)နှစ် (၂)ကြိမ်ဖြင့် ငှားရမ်းပြီး မှန်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၂။ ထိုသို့ ဆောင်ရွက်ရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည် -

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မျှ ပါဝင်ပိုင်ဆိုင်ခြင်း လုံးဝမရှိကြောင်း ဝန်ခံ ကတိပြုပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ရယူထားခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်း ချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုပါသည်။

No. 17, Between 81st & 82th Street, 22th Street, Palae Ngwe Yaung Quarter,
Aung Myay Thar Zan Township, Mandalay. Tel: 95-9-5178939

(ဃ) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းများဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် သဘာဝ ဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအတွက်လည်း အစီအမံများ ပြုလုပ်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(င) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် ပြည်ပမှဝယ်ယူတင်သွင်းသည့် စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ခွင့်ပြုမိန့်ရရှိလျှင် သက်ဆိုင်ရာ ဌာန၊ အဖွဲ့အစည်းများ၏ ညွှန်ကြားချက်များ၊ ဥပဒေ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိပြုတင်ပြအပ် ပါသည်။

(ဆ) ဝန်ထမ်းများ၏ လစာငွေမှ ဝင်ငွေခွန်အား သတ်မှတ်ထားသော နှုန်းထားများအတိုင်း ကုမ္ပဏီမှ ပေးဆောင်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဇ) လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် နိုင်ငံတော်၏ စက်ရုံ၊ အလုပ်ရုံ၊ အလုပ်သမားဥပဒေ အခြေခံစည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဈ) C.S.R ရံပုံငွေအဖြစ် နှစ်စဉ် ကုမ္ပဏီအသားတင်အမြတ်ငွေ၏ (၂%)အား သီးသန့် ထားရှိမည်ဖြစ်ကြောင်း ကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Zaw Win
Managing Director
International Glass Co.,Ltd

ပုံစံ (၂)

**ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်**
**ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်**

290

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ IG / ရင်းနှီး / ၂၀၁၈ ( ၀၀၁ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များ ကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးဇော်ဝင်း

(ခ) အဖအမည် ဦးခင်မောင်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ၉/မရမ(နိုင်)၀၀၁၆၂၄
နိုင်ငံကူးလက်မှတ်အမှတ် MB 831158

(ဃ) နိုင်ငံသား မြန်မာ

(င) နေရပ်လိပ်စာ အမှတ်(၂၉၅)၊ အခန်းအမှတ်(အေ-၄)၊ မြို့မကျောင်းလမ်း
(၁) ပြည်တွင်း ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး
(၂) ပြည်ပ

(စ) တယ်လီဖုန်း /ဖက်စ် ၀၉-၂၀၅၀၀၀၅၊ ၀၉-၅၅၀၈၈၉၈၊ ၀၉-၂၀၀၂၆၅၅

(ဆ) အီးမေးလ်လိပ်စာ

(ဇ) ပင်မကုမ္ပဏီအမည် International Glass Co.,Ltd

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်(၁၇)၊ ၂၂ လမ်း (၈၁x၈၂)လမ်းကြား၊ ပုလဲငွေရောင် ရပ်ကွက်၊ အောင်မြေသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(ည) လုပ်ငန်းအမျိုးအစား မှန်နှင့် ဆက်စပ်ပစ္စည်းများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ..........

(ခ) အဖအမည် ..........

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ..........

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ..........

(င) နေရပ်လိပ်စာ ..........

(၁) ပြည်တွင်း ..........

(၂) ပြည်ပ ..........

(စ) ပင်မကုမ္ပဏီအမည် ..........

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ..........

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ..........

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..........

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..........

(ဃ) နိုင်ငံသား ......................................................................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် ......................................................

နေရပ်လိပ်စာ ......................................................................

(စ) တယ်လီဖုန်း /ဖက်စ် ......................................................................

(ဆ) အီးမေးလ်လိပ်စာ ......................................................................

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား ......................................
မှန်နှင့် ဆက်စပ် ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☑ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| **စဉ်** | **အစုရှယ်ယာရှင်အမည်** | **နိုင်ငံသား** | **အစုရှယ်ယာပိုင်ဆိုင်မှု%** |
|---|---|---|---|
| ၁။ | ဦးဇော်ဝင်း | မြန်မာ | ၇၅% |
| ၂။ | ဦးစိုင်းအောင်စိုး | မြန်မာ | ၂၅% |
| ၃။ | ဦးခင်အောင် | မြန်မာ | ၀% |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ...................................... ၅,၀၀၀,၀၀၀,၀၀၀ ကျပ်

(ခ) အစုရှယ်ယာအမျိုးအစား ...................................... ကျပ် ၁၀,၀၀၀ တန် သာမန်ရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ ...................... ၅၀၀,၀၀၀

......................................................................

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

**ကျပ်/US$(သန်းပေါင်း)**

| | |
|---|---|
| (က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | ၈၆,၃၁၃ |
| (ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | |
| စုစုပေါင်း | **၈၆,၃၁၃** |

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ ..........

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ..... ၈၆,၃၁၃

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ..... (၂၅)နှစ်+(၅)နှစ် (၂) ကြိမ်

(စ) ရင်းနှီးမြှုပ်မှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ..... (၁)နှစ်

**မှတ်ချက်**။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | **နိုင်ငံခြားငွေ (သန်းပေါင်း)** | **ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း)** |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | | |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ကုန်အမှတ်တံဆိပ်၊ | | |

မူပိုင်ခွင့် စသည့် အသိဉာဏ်
ဆိုင်ရာပစ္စည်းများကိုတန်ဖိုး
ဖြတ်နိုင်သောအခွင့်အရေးများ၏
တန်ဖိုးပမာဏ

(င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ .................... ....................

(စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) .................... ....................

စုစုပေါင်း ____________________

**မှတ်ချက်**။ အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | **ကျပ်(သန်းပေါင်း)** | ညီမျှသည့် **ခန့်မှန်းနိုင်ငံခြားငွေ(သန်းပေါင်း)** |
|---|---|---|
| (က) ငွေပမာဏ | ၄၄,၂၁၃ | (32.75) USD |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၃၄,၈၈၀ | (25.84) USD |
| (ဂ) မြေ/ အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | ၅,၁၀၀ | (3.78) USD |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | | |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဆ) အခြား | ၂,၁၂၀ | (1.57) USD |
| **စုစုပေါင်း** | **၈၆,၃၁၃** | **(63.94) USD** |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းချေးငွေ .................................... ကျပ်

.................................... အမေရိကန်ဒေါ်လာ

☐ ပြည်ပချေးငွေ .................................... အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ ....................................

အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်) မန္တလေးတိုင်းဒေသကြီး

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့ အရှေ့ဘက် (၅)မိုင်အကွာ၊ စက်မှုနယ်မြေ၊ယင်းစွဲတောင်ခြေအနီး

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် (၃၁၄.၃၆)ဧက

(၃) လက်ရှိပိုင်ဆိုင်သူ စက်မှုဝန်ကြီးဌာန

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ....................................

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ....................................

(ဂဂ) နေရပ်လိပ်စာ နေပြည်တော်

....................................

(၄) မြေအမျိုးအစား စက်မှုဇုန်မြေ

(၅) မြေငှားရန် ခွင့်ပြုကာလ ....................................

(၆) ငှားရမ်းမည့်ကာလ ၂၀၁၆ မှ ၂၀၅၁ ထိ ( ၃၅ )နှစ်

(၇) ငှားရမ်းခနှုန်းထား တစ်နှစ် ကျပ် (၁၅၀၀) သန်း

(ကက) မြေ (၃၁၄.၃၆) ဧက

(ခခ) အဆောက်အအုံ ( ၉၂ ) လုံး

(၈) ရပ်ကွက် ....................................

(၉) မြို့နယ် ကျောက်ဆည်မြို့နယ်

(၁၀) ပြည်နယ်/တိုင်းဒေသကြီး မန္တလေးတိုင်းဒေသကြီး

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် ဦးဇော်ဝင်း

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန International Glass Co.,Ltd

(ခခ) အဖအမည် ဦးခင်မောင်

(ဂဂ) နိုင်ငံသား မြန်မာ

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ နိုင်ငံသားစိစစ်ရေးကတ်အမှတ် MB 831158 , ၉/မရမ(နိုင်)၀၀၁၆၂၄

(ငင) နေရပ်လိပ်စာ အမှတ်(၂၉၅)၊ အခန်းအမှတ်(အေ-၄)၊ မြို့မကျောင်းလမ်း ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက်

(၂) အကျယ်အဝန်း

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု မှန်ကူန်ချောတန်ချိန် (၆၀၀၀၀)

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် ၄ မဂ္ဂါဝပ် မှ ၅.၅ မဂ္ဂါဝပ် အတွင်း

(စ) နှစ်စဉ် ရေလိုအပ်ချက် (၇၃,၁၈၂,၅၀၀ ) ဂါလံ

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် ဦးဇော်ဝင်း

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၉/မရမ(နိုင်)၀၀၁၆၂၄

(ဂ) ဘဏ်စာရင်းအမှတ် 00310300302595301 ( KBZ Bank )

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု<br>(မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၂၅ | ၇ | |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု<br>(အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၅၀ | | |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၈၀ | ၁၀ | |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၅၄ | ၁၀ | |
| (င) | အကြံပေး | | ၃ | |
| (စ) | ကျွမ်းကျင်လုပ်သား | ၁၈၂ | | |
| (ဆ) | အခြေခံလုပ်သား | ၉၉ | | |
| စုစုပေါင်း | | ၅၀၀ | ၃၀ | |

**မှတ်ချက်။** အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(သို့မဟုတ်) ယင်းနေ့ကောက်ဆုံးရက်သည် ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် မပျက်မကွက် (မပျက်မကွက်) ထုတ်ပေးရမည်။

(ဃ) နိုင်ငံတော်မှ ဝန်ထမ်းများ၏ လစာနှုန်းထား၊ ထောက်ပံ့ကြေးနှင့် ခံစားခွင့်များကို အခါအားလျော်စွာ တိုးမြှင့်ပေးခဲ့ပါက သတ်မှတ်ခံစားခွင့်ရရှိမည့်နှုန်းထား၊ အခွင့်အရေးများအတိုင်း တိုးမြှင့်လစာ၊ အပိုထောက်ပံ့ကြေးနှင့် ခံစားခွင့်များကို ရရှိခံစားစေရမည်။

(င) ဝန်ထမ်းများ၏ အခြားဝန်ကြီးဌာန/ အဖွဲ့အစည်းများသို့ လည်းကောင်း၊ ဝန်ကြီးဌာနအတွင်းရှိ အခြားဌာန/ လုပ်ငန်း/ စက်ရုံများသို့ လည်းကောင်း၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုအောက်ရှိ ရုံးချုပ်နှင့် စက်ရုံ/အလုပ်ရုံများသို့ လည်းကောင်း၊ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်းကို လိုအပ်ချက်နှင့်အညီ "အငှားချထားသူ" ၏ စီမံခန့်ခွဲမှုဖြင့်ဆောင်ရွက်နိုင်ပြီး စက်ရုံအတွင်း ပြောင်းရွှေ့တာဝန်ပေးအပ်မှုကိုမူ "အငှားချထားခြင်းခံရသူ" က သင့်လျော်သလိုစီမံနိုင်သည်။ သို့ရာတွင် ဝန်ထမ်းအားအပြစ်ပေးသည့်သဘော၊ နစ်နာစေလိုသည့် သဘောသက်ရောက်သည့် ပြောင်းရွှေ့တာဝန်ပေးအပ်မှုများကို လုံးဝ (လုံးဝ) မပြုလုပ်ရ။ ဝန်ထမ်းများ၏ ဆန္ဒအပေါ်မူတည်၍ ကုမ္ပဏီဝန်ထမ်းအဖြစ် ထမ်းဆောင်လိုသူ၊ နိုင်ငံ့ဝန်ထမ်းအဖြစ် ထမ်းဆောင်လိုသူတို့ကို အချိန်ကာလတစ်ခုတွင် နှစ်ဦးနှစ်ဖက်ညှိနှိုင်း ဆောင်ရွက်သွားမည်။

(စ) "အငှားချထားခြင်းခံရသူ" သည် စက်ရုံတွင် လက်ရှိတာဝန်ထမ်းဆောင်နေသည့် ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် လုပ်ငန်းတာဝန်များကိုဆက်လက်တာဝန်ပေးအပ်ရမည်။ကုမ္ပဏီတွင် ဆက်လက်တာဝန်ထမ်းဆောင်မည့် ဝန်ထမ်းများသည် နိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများပါ တာဝန်နှင့် အခွင့်အရေးများ၊ ဝန်ထမ်းစည်းကမ်းထိန်းသိမ်းရေးဆိုင်ရာ အခြေခံမူများ၊ ဝန်ထမ်းစည်းကမ်းဆိုင်ရာပြစ်မှုများ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ငန်းခွင်စည်းကမ်းများအပြင် ကုမ္ပဏီမှ ချမှတ်ထားသည့် စည်းကမ်းချက်များကို လိုက်နာရမည်။ ကုမ္ပဏီစည်းကမ်းဆိုသည်မှာ ဝန်ထမ်းနှင့် အလုပ်ရှင်ညှိနှိုင်း၍ သဘောတူညီထားသည့် စည်းကမ်းချက်များ ဖြစ်ပြီး၊ ၎င်းစည်းကမ်းချက်များကို သက်ဆိုင်ရာ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း မှတစ်ဆင့် စိစစ်၍ စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူထားရမည်။









(ဆ) ဝန်ထမ်းများ၏ ဝန်ထမ်းရေးရာကိစ္စရပ်များအား နစ်နာမှုမရှိစေရေးအတွက် တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများပါ ပြဋ္ဌာန်းသတ်မှတ်ချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) စက်ရုံလွှဲပြောင်းပေးရာ၌ ပါရှိသော ဝန်ထမ်းများအနက် အလုပ်မှ နုတ်ထွက်လိုသူ၊ နှစ်ပြည့် / လျော့ပေါ့ ပင်စင်ခံစားလိုသူ နှင့် သက်ပြည့်ပင်စင်ခံစားမည့်ဝန်ထမ်းရှိပါက လည်းကောင်း၊ တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများပါ ပြဋ္ဌာန်းထားသည့် ဝန်ထမ်းတစ်ဦးလိုက်နာဆောင်ရွက်ရမည့်တာဝန်များ၊ ဝန်ထမ်းစည်းကမ်းထိန်းသိမ်းရေးဆိုင်ရာ အခြေခံမူများ၊ ဝန်ထမ်းစည်းကမ်းဆိုင်ရာ ပြစ်မှုများကို ဖောက်ဖျက်ကျူးလွန်သူများ၊ တည်ဆဲရာဇဝတ်မှုဆိုင်ရာပြစ်မှုများ ဖောက်ဖျက်ကျူးလွန်သူများရှိပါကလည်းကောင်း "အငှားချထားသူ"ထံ တင်ပြရမည်။

(ဈ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးဆိုင်ရာ အကျိုးခံစားခွင့်များရရှိရေးအတွက် ၂၀၁၂ ခုနှစ်၊ လူမှုဖူလုံရေးဥပဒေနှင့် နည်းဥပဒေများအရ လည်းကောင်း၊ အလုပ်သမားဥပဒေများပါ အကျိုးခံစားခွင့်များ ရရှိစေရေးအတွက် တည်ဆဲအလုပ်သမားဥပဒေ၊ နည်းဥပဒေများအရ လည်းကောင်း "အငှားချထားခြင်းခံရသူ" က တာဝန်ယူဆောင်ရွက်ပေးရမည်။

(ည) ဝန်ထမ်းများ လုပ်ငန်းခွင်ဆိုင်ရာ ရောဂါရရှိမှု၊ လုပ်ငန်းခွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက "အငှားချထားခြင်းခံရသူ" က လူမှုဖူလုံရေးဥပဒေ၊ အလုပ်သမားဥပဒေ၊ နည်းဥပဒေများနှင့်အညီ ရပိုင်ခွင့်များ ရရှိခံစားနိုင်စေရေးနှင့် ဆုံးရှုံးမှုမရှိစေရေးအတွက် တာဝန်ယူဆောင်ရွက်ပေးရမည့်အပြင် လိုအပ်သောပံ့ပိုးကူညီထောက်ပံ့မှုများကိုလည်း ပြုလုပ်ပေးရမည်။

(ဋ) ဝန်ထမ်းများ၏ရာထူးအနွယ် ပိုင်ဆိုင်ခွင့် (Lien) ကို ဆက်လက်ထိန်းသိမ်းထားပြီး သတ်မှတ်အရည်အချင်းပြည့်မီသူများအား စွမ်းဆောင်ရည်နှင့် လုပ်ငန်းကျွမ်းကျင်မှုအပေါ် မူတည်၍ ဤစာချုပ်အရ ဖွဲ့စည်းထားသည့် စီမံခန့်ခွဲရေးအဖွဲ့၏ စိစစ်ချက်ဖြင့် နိုင်ငံ့ဝန်ထမ်းနည်းဥပဒေ "အခန်း(၄) ရာထူးတိုးမြှင့်ခြင်း" ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ရာထူးတိုးမြှင့်ခန့်ထားရန် အမှတ်အများအနည်းအလိုက် တန်းစီဇယားများကို ရေးဆွဲပြီး စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက်ရယူထားရမည်။ ဝန်ကြီးဌာနမှ ရာထူးတိုးမြှင့်ခန့်ထားရေးကိစ္စရပ်များ ဆောင်ရွက်ချိန်

မြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE ၅၀၀၀၀ကျပ် K 50000

ကန့်သတ်



မြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE ၅၀၀၀၀ကျပ် K 50000

တွင် စိမ်ခန့်ခွဲရေးအဖွဲ့၏ စိစစ်ထောက်ခံချက်ဖြင့် ရာထူးတိုးမြှင့်ခန့်ထားပေးရန် သင့်လျော်သည့် ဝန်ထမ်းစာရင်းကို အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းမှ တစ်ဆင့် ဝန်ကြီးဌာနသို့ တင်ပြရမည်။

(ဌ) ဝန်ထမ်းများအား လုပ်ငန်းခွင်နှင့်သက်ဆိုင်သည့် ပြည်တွင်း/ ပြည်ပသင်တန်းများ၊ ဆွေးနွေးပွဲနှင့် ကျွမ်းကျင်မှုဆိုင်ရာ သင်တန်းများ၊ ဆွေးနွေးပွဲများသို့ စေလွှတ် တက်ရောက်၍ သင်ကြားခွင့်ပြုရမည်။

(ဍ) စက်ရုံရှိ အရာရှိရိပ်သာနှင့် ဝန်ထမ်းအိမ်ရာများအား လက်ရှိအတိုင်း ဆက်လက် နေထိုင်ခွင့်ပြုရမည်။ ဝန်ထမ်းအိမ်ရာများကို ဝန်ထမ်းများ အဆင်ပြေစွာ နေထိုင် နိုင်ရေးအတွက် လိုအပ်ချက်နှင့်အညီ ပြုပြင်မွမ်းမံပေးရမည်။ စက်ရုံ အတွင်း/အပြင်၊ လမ်းဘေး ဝဲ/ယာ များနှင့် ဝန်ထမ်းအိမ်ရာများ စိမ်းလန်းစိုပြည် သာယာလှပစေရေး အတွက် ထိန်းသိမ်း စိုက်ပျိုးဆောင်ရွက်ရမည်။

(ဎ) ဝန်ထမ်းများအား ၎င်းတို့၏ရာထူးအဆင့်နှင့် လျော်ညီသော ရပိုင်ခွင့်၊ ရာထူးအဆင့် နှင့် လျော်ညီသော တာဝန်ဝတ္တရားများကို ပေးအပ်တာဝန် ထမ်းဆောင်စေရမည်။

(ဏ) အငှားချထားသည့် စက်ရုံနှင့်စက်ရုံဝင်းအတွင်းရှိ မြေလွတ်များ၌ ထပ်မံတည်ဆောက် အကောင်အထည်ဖော်မည့် စက်မှုလုပ်ငန်းများတွင် စက်ရုံဝန်ထမ်းများကို ၎င်းတို့၏ ပညာအရည်အချင်းနှင့် ကျွမ်းကျင်မှုတို့အပေါ်မူတည်၍ သင့်လျော်သလို တာဝန် ပေးအပ်ရမည်။ ဝန်ထမ်းများအား သတ်မှတ်အလုပ်ချိန်ထက် ပိုမိုဆောင်ရွက်စေခဲ့ ပါ က "အငှားချထားခြင်းခံရသူ" က အချိန်ပိုကြေးပေးရမည်။

(တ) စက်ရုံဝန်ထမ်းများအတွက် သွားလာရေးကိစ္စများ၊ ကျန်းမာရေးဆိုင်ရာကိစ္စရပ်များ အဆင်ပြေစေရေးအတွက် ဝန်ထမ်းကြို/ ပို့ယာဉ်များ၊ အုပ်ချုပ်မှုသုံးယာဉ်များနှင့် အခြားအရေးကြီးကိစ္စရပ်များအတွက် မော်တော်ယာဉ်များကို "အငှားချထားခြင်း ခံရသူ" က သင့်လျော်သလို စီစဉ်ဆောင်ရွက်ပေးရမည်။

(ထ) မိမိဝန်ထမ်းများ လုပ်ငန်းခွင်တွင် ပျော်ရွှင်စွာလုပ်ကိုင်နိုင်ရေးအတွက် ဝန်ထမ်းများ သက်သာချောင်ချိရေး၊ (Corporate Social Responsibility (CSR))၊ အိမ်ရာ၊ ရေ၊ မီး၊ ကျောင်း၊ ဆေးပေးခန်း၊ သာရေး၊ နာရေးကိစ္စရပ်များ၊ ကျန်းမာရေးနှင့် ညီညွတ် သောနေထိုင်ရေး အစီအစဉ်များကို "အငှားချထားခြင်းခံရသူ" က သင့်လျော်သလို စီစဉ်ဆောင်ရွက်ပေးရမည်။

မြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE ၅၀၀၀၀ကျပ် K 50000

ကန့်သတ်

(ဒ) "အငှားချထားခြင်းခံရသူ" ထံ၌ ဆက်လက်လုပ်ကိုင်သည့် ဝန်ထမ်းများအနက် နိုင်ငံ့ဝန်ထမ်းအဖြစ် ဆက်လက်တည်ရှိနေမည့် ဝန်ထမ်းများအား နိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများ၊ လူမှုဖူလုံရေးဥပဒေ၊ နည်းဥပဒေများနှင့်အညီ ခံစားခွင့်ရှိသည်များကို ခံစားခွင့်ပြုရမည်။ "အငှားချထားခြင်းခံရသူ" ထံ၌ ဆက်လက်လုပ်ကိုင်သည့် ဝန်ထမ်းများအနက် နိုင်ငံ့ဝန်ထမ်းမဟုတ်တော့သူများအား တည်ဆဲအလုပ်သမားဥပဒေ၊ နည်းဥပဒေများပါ ရပိုင်ခွင့်များ နှင့်အညီ ခံစားခွင့်ပြုရမည်။

(ဓ) လက်ရှိခန့်အပ်ထားသော နေ့စားဝန်ထမ်းများအနေဖြင့် စက်ရုံတွင် ဆက်လက်တာဝန်ထမ်းဆောင်လိုပါက "အငှားချထားခြင်းခံရသူ" က ၎င်းတို့အား ဆက်လက်တာဝန်ပေးခန့်ထားရမည်။

(န) နောက်ဆက်တွဲ(ဃ) ပါ လွှဲပြောင်းပေးသည့်ဝန်ထမ်းများ၏ ဝန်ထမ်းရေးရာ ကိစ္စရပ်များနှင့် ပတ်သက်၍လည်းကောင်း၊ "အငှားချထားခြင်းခံရသူ" နှင့် ဝန်ထမ်းများအကြား အငြင်းပွားမှုဖြစ်လာပါက ညှိနှိုင်းဖြေရှင်း ဆောင်ရွက်နိုင်ရန်အတွက်လည်းကောင်း အောက်ဖော်ပြပါ ပုဂ္ဂိုလ်များပါဝင်သော စီမံခန့်ခွဲရေးအဖွဲ့ကို ဖွဲ့စည်းဆောင်ရွက်ရမည်-

| | | |
|---|---|---|
| (၁) | ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ဥက္ကဋ္ဌ |
| (၂) | မန်နေဂျင်းဒါရိုက်တာ<br>International Glass Co., Ltd. | အဖွဲ့ဝင် |
| (၃) | အထွေထွေမန်နေဂျာ (နည်းပညာဖွံ့ဖြိုးရေးဌာန)<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | အဖွဲ့ဝင် |
| (၄) | အထွေထွေမန်နေဂျာ (အုပ်ချုပ်ရေးဌာန)<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | အဖွဲ့ဝင် |
| (၅) | ဒါရိုက်တာ<br>International Glass Co., Ltd | အဖွဲ့ဝင် |
| (၆) | ဒါရိုက်တာ<br>International Glass Co., Ltd | အဖွဲ့ဝင် |
| (၇) | စက်ရုံမှူး(သို့မဟုတ်) စက်ရုံတာဝန်ခံ<br>အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်) | အတွင်းရေးမှူး |

(ပ) နောက်ဆက်တွဲ(ဃ)ပါ လွှဲပြောင်းပေးသည့် ဝန်ထမ်းများ၏ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေအခန်း(၄)၊ အပိုဒ်(၂၇)(က) အရ ရာထူးတိုးမြှင့်ခန့်ထားရေးကိစ္စရပ်များ အပါအဝင် အခြားသော ဝန်ထမ်းရေးရာကိစ္စရပ်များ နှင့်ပတ်သက်၍ လည်းကောင်း၊ အုပ်ချုပ်ရေးဆိုင်ရာကိစ္စရပ်များ အပါအဝင် အခြားသော အငြင်းပွားဖွယ်ကိစ္စရပ်များ တစ်စုံတစ်ရာဖြစ်ပွားလာပါက လည်းကောင်း စီမံခန့်ခွဲရေးအဖွဲ့က တာဝန်ယူ ဖြေရှင်း ဆောင်ရွက်ပေးရမည်။

**ငှားရမ်းခနှုန်းထား**

၁၁။ အပိုဒ်(၄)ပါ မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းများနှင့် အခြားပုံသေပိုင်ပစ္စည်းများ အတွက် ငှားရမ်းခနှုန်းထားမှာ တစ်နှစ်လျှင်ကျပ် (၁,၅၀၀) သန်း (ကျပ်သန်းတစ်ထောင့်ငါးရာတိတိ) ဖြစ်သည်။

၁၂။ ငှားရမ်းခနှုန်းထားအား (၂)နှစ် (၁)ကြိမ် ပြန်လည်သုံးသပ်ပြီး နောက်ဆုံးငှားရမ်းခ၏ (၂%) နှင့်အထက် တိုးတောင်းပိုင်ခွင့်ရှိသည်။ ငှားရမ်းခနှုန်းထားကို နှစ်ဦးသဘောတူ ညှိနှိုင်းပြင်ဆင်ခြင်းအား စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်သည်။

**ဘဏ်အာမခံ (Performance Bank Guarantee) ပေးသွင်းခြင်း**

၁၃။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ၁လ(တစ်လ) အတွင်း တစ်နှစ်ငှားရမ်းခငွေ၏ (၁၀%) နှင့် ညီမျှသော ကျပ် (၁၅၀) သန်းတိတိ ကို ဘဏ်အာမခံ (Performance Bank Guarantee)အဖြစ် Performance Bank Guarantee မူရင်းကို မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) အသေးစားနှင့်အလတ်စား စက်မှုလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်မှ တစ်ဆင့် "အငှားချထားသူ" သို့ ပေးသွင်းရမည်။

၁၄။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက ဘဏ်အာမခံ (Performance Bank Guarantee) ကို "အငှားချထားသူ" မှ သိမ်းယူမည်ဖြစ်ပြီး ကုမ္ပဏီ နှင့် ကုမ္ပဏီ၏တာဝန်ရှိသူတို့အား အခါအားလျော်စွာထိုက်သင့်သော အရေးယူခြင်း ဆောင်ရွက်မည်။

**ဘဏ်အာမခံ (Performance Bank Guarantee) သက်တမ်း**

၁၅။ "အငှားချထားခြင်းခံရသူ" မှ ပေးသွင်းထားသည့် ဘဏ်အာမခံ (Performance Bank Guarantee) ၏သက်တမ်းသည် တစ်နှစ်ဖြစ်ပြီး သက်တမ်းကုန်ဆုံးသည့်အချိန်တွင် "အငှားချထား

ခြင်းခံရသူ"မှ (၁)နှစ် တစ်ကြိမ် ဘဏ်အာမခံ (Performance Bank Guarantee) အား ပြန်လည် တင်သွင်းရမည်။

**စက်ပစ္စည်းသုံးစွဲမှု အာမခံ (Machinery Security Guarantee)**

၁၆။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ၁လ(တစ်လ) အတွင်း Machinery Security Guarantee ကျပ် (၃,၀၀၀) သန်း ကို စက်ပစ္စည်းသုံးစွဲမှုအာမခံ (Machinery Security Guarantee) အဖြစ် Machinery Security Guarantee မူရင်းကို မြန်မာ့စီးပွားရေးဘဏ် (သို့မဟုတ်) မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ အသိအမှတ်ပြုထားသော ပုဂ္ဂလိကဘဏ်မှ တစ်ဆင့် "အငှားချထားသူ"သို့ ပေးသွင်းရမည်။

၁၇။ လက်ရှိမီးဖိုအား ဆက်လက်သုံးစွဲပါက စက်ပစ္စည်းသုံးစွဲမှုအာမခံ (Machinery Security Guarantee) အား (၆)လလျှင် (၁)ကြိမ် ငွေကျပ် (၆၀၀) သန်းကို ပြန်လည်ထုတ်ယူခွင့်ရှိသည်။ မှန်ရည်ကျိုမီးဖို၏ သက်တမ်းပြည့်မြောက်၍ မီးဖိုအသစ်ပြန်လည်တည်ဆောက်ခြင်း (သို့မဟုတ်) မှန်ရည်ကျိုမီးဖိုအား သက်တမ်းမပြည့်မီ Cold Repair (Overhaul) ပြုလုပ်တည်ဆောက်ခြင်းများ ပြီးစီး၍ ကုန်ချောမှန်တစ်နေ့ (၁၁၇)တန် အနည်းဆုံးထွက်ရှိပါက နောက်ဆုံးအရစ်ကျန်ရှိမည့် လက်ကျန်ငွေကျပ်(၆၀၀)သန်းကို ပြန်လည်ထုတ်ယူနိုင်ခွင့်ရှိသည်။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက စာချုပ်ရပ်စဲပြီး စက်ပစ္စည်းသုံးစွဲမှုအာမခံ (Machinary Security Guarantee) ကို "အငှားချထားသူ" မှသိမ်းယူမည်။ စာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ဖောက်ဖျက်ကြောင်းတွေ့ရှိရပါက (၆) လ (၁) ကြိမ် ကျပ် (၆၀၀) သန်း ပြန်လည်ထုတ်ယူမှုကို ရပ်ဆိုင်းထားမည်။

**ငှားရမ်းခပေးသွင်းခြင်း**

၁၈။ "အငှားချထားခြင်းခံရသူ"သည် ဤစာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၃)လအတွက် ငှားရမ်းခကျသင့်ငွေကျပ် (၃၇၅) သန်းကို (၃) လတစ်ကြိမ် ပထမလ၏ ပထမ(၇) ရက်အတွင်း အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း ဘဏ်ငွေစာရင်းသို့ပေးသွင်းရမည်။ (၃) လအတွက် ငှားရမ်းခ ငွေ၏ ၅% ကို သက်ဆိုင်ရာ အခွန်ရုံးတွင် ကုန်သွယ်လုပ်ငန်းခွန်အဖြစ် ပေးဆောင်ထားရန်နှင့် ပေးဆောင်ထားပြီး အခွန်ချလံကို "အငှားချထားသူ" သို့ အပ်နှံထားရမည်။

၁၉။ ငှားရမ်းခပေးသွင်းရန် နောက်ကျပါက ရက်သတ္တပါတ်၊ တစ်ပတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် (၃)လအတွက် ငှားရမ်းခ၏ (၁%) ကို "အငှားချထားခြင်းခံရသူ"မှ ပေးသွင်းရမည်။ စုစုပေါင်းရက်လွန်ကြေးသည် (၃) လငှားရမ်းခ၏ (၅%) ထက်မကျော်စေရ။ "အငှားချထားခြင်း









ခံရသူ သည် ငှားရမ်းခကို (၆) လကျော်လွန်သည့်တိုင်အောင် ပေးသွင်းလာခြင်းမရှိပါက ဘဏ်အာမခံကို "အငှားချထားသူ" က သိမ်းယူမည်ဖြစ်ပြီး နှစ်ဖက်ညှိနိူင်း၍ စာချုပ်ရပ်စဲနိုင်သည်။

၂၀။ "အငှားချထားခြင်းခံရသူ"သည် လက်ရှိမီးဖိုအားပြုပြင်ခြင်းနှင့် အစာစပ်လုပ်ငန်းများ ပြင်ဆင်သည့် (Major Repair) ဆက်လက်လုပ်ကိုင်နိုင်ရန်အတွက် စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ ငှားရမ်းခ (၆) လ ကင်းလွတ်ခွင့်ပြုသည်။ လက်ရှိ မီးဖိုသက်တမ်း (၂ နှစ် ၆ လ) ကုန်ဆုံး၍ Cold Repair (Overhaul) ပြုလုပ်သည့်အချိန်တွင် ထုတ်လုပ်မှုရပ်တန့်ထားရမည်ဖြစ်သဖြင့် အဆိုပါကာလအား ငှားရမ်းခ ကင်းလွတ်ခွင့်ပြုမည်ဖြစ်ပြီး ကင်းလွတ်ခွင့်ကာလသည် (၁၂) လ (တစ်ဆယ့်နှစ်လ) ထက်မကျော်လွန်စေရ။

**"အငှားချထားခြင်းခံရသူ" ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၂၁။ "အငှားချထားခြင်းခံရသူ" ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နောက်ဆက်တွဲပါမြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများ နှင့် အခြားပုံသေပိုင် ပစ္စည်းများကို စာချုပ်သက်တမ်းအတွင်း ငှားရမ်း၍ စာချုပ်ပါစည်းကမ်းများနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ခ) စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများ အားလုံး အား စနစ်တကျထိန်းသိမ်းဆောင်ရွက်ရမည်။ စီမံကိန်းဆိုင်ရာ အချက်အလက်များ၊ စီမံကိန်းဆိုင်ရာ စာရွက်စာတမ်းများ၊ စီမံကိန်းအား တာဝန်ယူဆောက်လုပ်ခဲ့သည့် ကုမ္ပဏီ (ပြည်ပ/ ပြည်တွင်း) များဆိုင်ရာ အချက်အလက်များအား မသက်ဆိုင်သူများထံ အသိပေးခြင်းမပြုလုပ်ရ။

(ဂ) "အငှားချထားခြင်းခံရသူ" သည် စက်ရုံရှိ ကုန်ကြမ်း၊ ထုတ်လုပ်ဆဲကုန်ကြမ်း၊ Cullet၊ ကုန်ချော၊ စက်အရန်ပစ္စည်း၊ စတိုလက်ကျန်ပစ္စည်း၊ စက်ဆီ၊ ချောဆီ၊ မီးထိုးဆီ၊ဒီဇယ်ဆီစသည့် လက်ကျန်အားလုံးကို တန်ဖိုးအတိုင်းပေးချေ၍ လွှဲပြောင်းယူရမည်ဖြစ်ပါသည်။ အဆိုပါ လက်ကျန်ပစ္စည်းများ၏ ကျသင့်တန်ဖိုးအတွက် ငွေပေးချေမှု အစီအစဉ်ကို နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်သွားရမည်။

(ဃ) "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်အညီ သတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ" ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(င) မူလအဆောက်အဦများကို ပြုပြင်ခြင်း၊ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ အဆောက်အဦတိုးချဲ့ဆောက်လုပ်ခြင်း၊ လုပ်ငန်းတိုးချဲ့ခြင်း၊ စက်ပစ္စည်းများ ထပ်တိုးခြင်းများကို ဆောင်ရွက်ခွင့်ရှိပြီး "အငှားချထားသူ" ၏ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ရမည်။

စက်ရုံဧရိယာအတွင်း အဆောက်အဦတိုးချဲ့ဆောက်ခြင်း၊ လုပ်ငန်းတိုးချဲ့ခြင်းများ ဆောင်ရွက်ပါက မြေအသုံးပြုခ အဖိုးစားနားနှင့် မြေအသုံးချမှု ပရီမီယံကြေးအား ပေးဆောင်ရမည်။ လက်ရှိရိပ်သာများ၊ အိမ်ရာများ၊ အဆောင်များကို မူလသတ်မှတ်နေရာချထားမှုအတိုင်း ထားရှိရမည်။ အဆောက်အဦ၊ မီး၊ ရေ တို့ကို ပိုမိုကောင်းမွန်အောင်ပြုပြင်မွမ်းမံနိုင်ခွင့်ရှိပြီး "အငှားချထားသူ" ၏ ခွင့်ပြုချက်ရယူ ဆောင်ရွက်ရမည်။

(စ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းကမ်းများနှင့်အညီ သုံးစွဲရမည်။ လျှပ်စစ်အန္တရာယ်ကင်းရှင်းစေရေး၊ မီးဘေး၊ ရေဘေး၊ လေဘေး၊ အဖျက်သမားရန် ကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိရမည်။

(ဆ) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများနှင့် အရည်အသွေးကိုလည်းကောင်း စစ်ဆေးရန် လိုအပ်ပါ က "အငှားချထားသူ" က နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

(ဇ) အငှားချထားသည့်ပစ္စည်းများ နှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊ တံဆိပ်ခေါင်းခွန်၊ အခြားအခွန်အခများနှင့် ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဈ) "အငှားချထားခြင်းခံရသူ" သည် နောက်ဆက်တွဲ(ဂ) ပါလုပ်ကိုင်ခွင့်ပြုသည့် ကုန်ကြမ်းလုပ်ကွက်များ အတွက် ကျသင့်သော လိုင်စင်ကြေး၊ အခွန်အခများနှင့် သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရသည့် ထုတ်လုပ်မှုအချိုးများ ပေးဆောင်ရမည်။ လိုအပ်သော လိုင်စင်သက်တမ်းတိုးခြင်း၊အခွန်အခများ ပေးဆောင်ခြင်းများကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။ ကုန်ကြမ်းထုတ်လုပ်ခြင်းနှင့် ပတ်သက်၍ သတ္တုတွင်း ဥပဒေ နှင့်အညီဆောင်ရွက် သွားရမည်ဖြစ်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်၍ ပတ်ဝန်းကျင် စီမံအုပ်ချုပ် လုပ်ကိုင်မှု စီမံချက်ကို ရေးဆွဲအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ထို့ပြင် ကုန်ကြမ်း ထုတ်လုပ်မည့်နေရာသည် သစ်တောမြေဖြစ်ပါက သစ်တောဦးစီးဌာန၏ ခွင့်ပြုချက် နှင့် သဘောထားမှတ်ချက်ကို ကြိုတင်ရယူရမည် ဖြစ်သည်။

(ည) ကုန်ကြမ်းတောင်များမှ ကုန်ကြမ်းများအား မှန်ထုတ်လုပ်ခြင်းနှင့် မသက်ဆိုင်သော ကုန်ကြမ်းများ ထုတ်လုပ်ခြင်းမပြုရ။ သဘာဝကုန်ကြမ်းများ ရောင်းချခြင်း၊ ကုန်ကြမ်းတောင်များအား အခြားသို့ တစ်ဆင့်ငှားရမ်းခြင်းမပြုလုပ်ရ။ ရွှေ့ပြောင်း

ကန့်သတ်



အမွေအနှစ် များတွေ့ရှိပါက သက်ဆိုင်ရာဌာနများသို့ အကြောင်းကြားရမည်။ ထိခိုက်ပျက်စီးအောင် မပြုလုပ်ရ။

(ဋ) အငှားချထားသည့် စက်ရုံအတွက် မီးအာမခံအပါအဝင် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး၊ အာမခံသက်တမ်း ကျော်လွန်မှုမရှိစေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(ဌ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ (သို့မဟုတ်) စာချုပ် ရပ်စဲသည့်အခါ အငှားချထားသောစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ (အဓိက ကုန်ထုတ်လိုင်းများဖြစ်သည့် မှန်ရည်ကျိုမီးဖို၊ Forming Section၊ Nitrogen & Hydrogen Plant) ပြန်လည်လွှဲပြောင်းအပ်နှံရမည်။ သို့ရာတွင် အကျိုးအကြောင်းဆီလျော်မှုရှိသော ချွတ်ယွင်းမှုများအတွက် ပြောင်းလဲပြင်ဆင်သွားမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဍ) ကုန်ချောပစ္စည်းများကို ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(ဎ) မိမိ၏ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ် နှင့်စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ" ၏ တာဝန်သာ ဖြစ်သည်။

(ဏ) စက်ရုံမှ မထုတ်လုပ်ဖူးသော စက်မှုထုတ်ကုန်ပစ္စည်း အမယ်သစ်ကို ထုတ်လုပ်လိုပါက "အငှားချထားသူ" နှင့် ညှိနှိုင်းထုတ်လုပ်ခွင့်ရှိသည်။ "အငှားချထားခြင်းခံရသူ" သည် သဘောတူညီချက်ရယူပြီး ကုန်ပစ္စည်းအမယ်သစ်ထုတ်လုပ်ရာတွင် စက်ရုံ၏ မူလတပ်ဆင်ထားသော စက်ပစ္စည်းကိရိယာများကို အသုံးမပြုတော့ဘဲ အသစ်ထုတ်လုပ်မည့် ကုန်ပစ္စည်းနှင့် သက်ဆိုင်သော စက်ပစ္စည်းကိရိယာအသစ်များကို တပ်ဆင်လိုပါက လုပ်ငန်းဆောင်ရွက်ခြင်းမပြုမီ "အငှားချထားသူ" သို့ တင်ပြရမည်။

(တ) အငှားချထားသည့် စက်ရုံတွင် ဤစာချုပ်အရ ခွင့်ပြုထားသည့် စက်မှုလုပ်ငန်းမှအပ ဥပဒေနှင့် မညီညွတ်သော လုပ်ငန်းများလုပ်ကိုင် ဆောင်ရွက်ခြင်းမပြုရ။ စက်ရုံအတွင်း ဥပဒေနှင့် ညီညွတ်သော လုပ်ငန်းတစ်စုံတစ်ရာ ဆောင်ရွက်မှုပြုပါက "အငှားချထားသူ" သို့ ကြိုတင် ခွင့်ပြုချက်ရယူပြီးမှ ဆောင်ရွက်ရန် ဖြစ်သည်။

(ထ) ကုန်ကြမ်းထုတ်လုပ်ရာတွင် အသုံးပြုသော ယမ်းနှင့်ဖောက်ခွဲဆက်စပ်ပစ္စည်းများအား သတ်မှတ် Norm အတွင်းသာ သုံးစွဲရမည်ဖြစ်ပြီး အခြားသို့ ချေးငှားခြင်း၊ လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ ကုန်ကြမ်းထုတ်လုပ်မှုနှင့် မသက်ဆိုင်သော နေရာနှင့် လုပ်ငန်းများတွင် အသုံးမပြုရ။ ထားသိုသည့်နေရာလုံခြုံရေးကို အလေးထား ဆောင်ရွက်ရမည်။

ကန့်သတ်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

(ဒ) "အငှားချထားခြင်းခံရသူ" သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုချက်ရရှိစေရန်အတွက် လိုအပ်သောအထောက်အထား စာရွက်စာတမ်းများဖြင့် အဆိုပြုလွှာများကို စာချုပ်အကျိုးသက်ရောက်သည့်နေ့မှ (၆)လ အတွင်း MIC သို့ တင်ပြဆောင်ရွက်ရမည်။

(ဓ) "အငှားချထားခြင်းခံရသူ" မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများ ထားရှိပြီး "အငှားချထားသူ" ထံ မိတ္တူတစ်စုံအပ်နှံထားရမည်။

(န) စက်ရုံအတွင်း စိမ်းလန်းစိုပြေရေးနှင့် သာယာလှပရေးလုပ်ငန်းစဉ်များ အတွက် "အငှားချထားခြင်းခံရသူ" မှ အစဉ်တစိုက် ဆောင်ရွက်သွားရမည်။

(ပ) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်း နှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး ပေးဆောင်ထားသည့်ပြေစာ အထောက်အထား မိတ္တူများအား "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။

(ဖ) ထုတ်လုပ်သည့် ထုတ်ကုန်များ၏ အမျိုးအစားများ၊ နှစ်စဉ်လျာထားချက်၊ လစဉ်လျာထားချက်၊ ကုန်ထုတ်လုပ်မှု၊ ဖြန့်ဖြူးမှုများ၊ ကုန်ချောလက်ကျန်များနှင့် လုပ်ငန်းလုပ်ဆောင်မှုများအား အငှားချထားသူထံ လစဉ်ပေးပို့ရမည်။

(ဗ) လေထု၊ ရေထုနှင့် မြေထုအပါအဝင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးကို စဉ်ဆက်မပြတ် သတိပြုဆောင်ရွက်ပေးရမည်။ EIA၊ HIA၊ SIA၊ CSR နှင့် ထူးခြားဆောင်ရွက်ချက်များကို အငှားချထားသူထံ လစဉ်ပေးပို့ရမည်။ သက်ဆိုင်ရာဌာနများမှ ညွှန်ကြားထားသော IEE, EIA, EMP တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် အညီ တာဝန်ခံဆောင်ရွက်ပေးရမည် ။

(ဘ) ထုတ်ကုန်အသစ်ထုတ်လုပ်ခြင်း၊ လုပ်ငန်းများပြင်ဆင်ခြင်း၊ လုပ်ငန်းသစ်များပြုလုပ်ခြင်းများကို "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။ ကုမ္ပဏီ လိပ်စာပြောင်းလဲခြင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ ပြောင်းလဲခြင်းရှိသည့် အချိန်တိုင်း "အငှားချထားသူ" သို့ ကြိုတင်အသိပေး အကြောင်းကြားရမည် ဖြစ်ပါသည်။

(မ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား "အငှားချထားခြင်းခံရသူ" ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။



ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

(ယ) စက်ရုံရှိ မော်တော်ယာဉ်များနှင့် ပတ်သက်၍ စက်သုံးဆီနှင့် ယာဉ်ပြုပြင်ထိန်းသိမ်းမှုများနှင့် ယာဉ်လိုင်စင် သက်တမ်းတိုးခြင်းတို့ကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ရမည်။ စာချုပ် လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ ဝန်ထမ်းများ၏ လစာနှင့် စရိတ်များကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူ ဆောင်ရွက်ရမည်။

(ရ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် လျှပ်စစ်ဓါတ်အားခ၊ မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်းသတ်မှတ်ရက်အတွင်းပေးချေရမည်ဖြစ်ပြီး ပေးချေရန်နောက်ကျပါက သက်ဆိုင်ရာဌာန၏ ဓာတ်အားဖြတ်တောက်ခြင်းခံရမည်ကို "အငှားချထားခြင်းခံရသူ" မှ သိရှိသဘောတူရမည်။

(လ) "အငှားချထားခြင်းခံရသူ" သည် လျှပ်စစ်ဓါတ်အားနှင့် လောင်စာ (သဘာဝဓါတ်ငွေ့နှင့်အခြား) ရရှိရေး လုပ်ငန်းများကို တာဝန်ယူ ဆောင်ရွက်ရမည်။

(ဝ) "အငှားချထားသူ" နှင့် မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းတို့ ချုပ်ဆိုထားရှိသော သဘာဝဓာတ်ငွေ့ရောင်းချမှုစာချုပ်နှင့် ဆက်လက်ချုပ်ဆိုမည့်သဘာဝဓာတ်ငွေ့ရောင်းချမှုစာချုပ်တို့ပါ စည်းမျဉ်းစည်းကမ်းချက်များကို သိရှိ နားလည်ပြီး တာဝန်ယူလိုက်နာဆောင်ရွက်ရမည်။ လိုက်နာရန် ပျက်ကွက်သည့်အတွက် ဖြစ်ပေါ်လာသောပေးလျော်ရန်ကိစ္စများကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဖြေရှင်းရမည်။

(သ) "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းရန်အတွက်တင်ပြခဲ့သော အဆိုပြုလွှာပါအချက်များကို သွေဖည်ခြင်း မရှိစေရ။

(ဟ) အငှားချထားသည့် စက်ရုံနှင့် စာချုပ်နောက်ဆက်တွဲပါပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ ကိုယ်စားဆောင်ရွက်စေခြင်း (သို့မဟုတ်) တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(ဠ) "အငှားချထားခြင်းခံရသူ"သည် နှစ်ရှည်ငှားရမ်း စာချုပ်ချုပ်ဆိုခြင်းအပေါ် တည်ဆဲတံဆိပ်ခေါင်းခွန်ဥပဒေနှင့်အညီ ကျသင့်တံဆိပ်ခေါင်းခွန်နှင့် ငှားရမ်းခြင်းဝန်ဆောင်မှုအတွက် ကျသင့်ကုန်သွယ်လုပ်ငန်းခွန်ကို ဥပဒေနှင့်အညီ ပေးဆောင်ရမည်။



**"အငှားချထားသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၂၂။ "အငှားချထားသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"အား စက်ရုံနှင့် စာချုပ် နောက်ဆက်တွဲပါ အငှားချထားသည့် ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) စက်ရုံတွင်တပ်ဆင်ထားပြီးသော သဘာဝဓါတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံအခြေအနေများကို လည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချသည့်ပစ္စည်းများကို လည်းကောင်း၊ နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။ "အငှားချထားသူ"သည် စက်ရုံ နှင့် မြေဧရိယာအတွင်း ဝင်ထွက်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက် ကျသင့်သည့် မြေခွန်ကိုပေးဆောင်ရမည်။ စာချုပ်ချုပ်ဆိုခြင်းမပြုမီ ပြည်တွင်းပြည်ပ ကြွေးမြီများရှိပါက "အငှားချထားသူ" မှ တာဝန်ယူဆောင်ရွက်ရမည်။

(င) စက်ရုံတွင်အသုံးပြုသော သဘာဝဓါတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေး၊ အာမခံကြေးနှင့် အခွန်အခများအား "အငှားချထားခြင်းခံရသူ" မှ လစဉ်အချိန်မီပေးဆောင်မှု ရှိ/ မရှိ စိစစ်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"၏ စာချုပ်ပါ လုပ်ငန်းများဆောင်ရွက်နိုင်စေရေးအတွက် နိုင်ငံခြားသားများ ပြည်တွင်းနေထိုင်ခွင့်၊ ဗီဇာသက်တမ်းတိုးခြင်းကိစ္စများရရှိစေရန် ပူးပေါင်းဆောင်ရွက်ပေးရမည်။

(ဆ) အငှားချထားသည့် စက်ရုံနှင့် သက်ဆိုင်သောအာမခံများ၏ အာမခံသက်တမ်း ကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

(ဇ) အငှားချထားသည့် စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက်လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဈ) ဤစာချုပ် သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် အငှားချထားသည့်ပစ္စည်းများအားလုံး (ပုံစံပြောင်းလဲမှု၊ တိုးချဲ့မှုများအပါအဝင်)ကို "အငှားချထားခြင်းခံရသူ" ထံမှ အဖိုးစားနားမပါရှိဘဲ ပြန်လည်လက်ရောက် ရယူခွင့်ရှိရမည်။

## အငြင်းပွားမှုဖြေရှင်းခြင်း

၂၃။ ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်း၍မရနိုင်ပါက ဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်း စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ အမှုကုန်ကျစရိတ်အား အမှုရှုံးသူမှ ကျခံရမည်။

## သဘာဝသယံဇာတပစ္စည်း တွေ့ရှိခြင်း

၂၄။ ဤစာချုပ်သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတ ပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ကို တွေ့ရှိလျှင် "အငှားချထားသူ"ထံသို့ ချက်ချင်းအကြောင်းကြားရမည်ဖြစ်ပြီး ၎င်းတို့အား နိုင်ငံတော်ပိုင်အဖြစ် မှတ်ယူရမည်။ ထိုပစ္စည်းများကို "အငှားချထားသူ" က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ" သည် အဆိုပါသယံဇာတပစ္စည်းများကို မည့်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ပိုင်ခွင့် ရှိစေရမည်။ ရှေးဟောင်းအမွေအနှစ်များ မထိခိုက်အောင် ထိန်းသိမ်းကြပ်မတ် ဆောင်ရွက်ရန် ဖြစ်သည်။

## ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၅။ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါဖြစ်စေ၊ အကြောင်းအမျိုးမျိုးကြောင့် ဤစာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းများ (အဓိက ကုန်ထုတ်လိုင်းများဖြစ်သည့် မှန်ရည်ကျိုမီးဖို၊ Forming Section ၊Nitrogen & Hydrogen Plant ) နှင့် တိုးချဲ့မှုများအပါအဝင် အခြားပုံသေပိုင်ပစ္စည်းများအားလုံးကို "အငှားချထားသူ" သို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်းကို (၃) လ အတွင်းပြီးစီးအောင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။ အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်ပါက ပြန်လည်အပ်နှံရမည့်ပစ္စည်းများအခြေအနေကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

## မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၂၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များ အပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်

များတရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်၊ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ" နှစ်ဦးနှစ်ဖက်သည် နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၇။ "အငှားချထားခြင်းခံရသူ"အနေဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် အညီ Environmental Management Plan ရေးဆွဲ၍ IEE, EIA, HIA, SIA, CSR တို့ကို အလေးထားဆောင်ရွက်ရမည်။သတ်မှတ်ကာလစေ့ရောက်လျှင် ထပ်မံအစစ်ဆေးခံခြင်း၊ ထပ်မံဆောင်ရွက်ခြင်းတို့ပြုလုပ်ရမည်။

၂၈။ "အငှားချထားခြင်းခံရသူ" အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေဆိုးသန့်စင်နိုင်သော စက်များတပ်ဆင်ခြင်း၊ လေထုညစ်ညမ်းမှုမဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသောပတ်ဝန်းကျင် ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည်။ စက်ရုံအလုပ်ရုံမှ ထွက်လာသောစွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများ၊ ဆီဟောင်းများကို သန့်စင်ခြင်းမရှိဘဲ တိုက်ရိုက်စွန့်ပစ်ခြင်း မပြုရ။ စွန့်ပစ်ပစ္စည်းသန့်စင်ရေးစနစ်များ၊ ရေဆိုးသန့်စင်ရေးစနစ်များ တပ်ဆင်တည်ဆောက်၍ သန့်စင်ပြီးမှ စွန့်ပစ်ရမည်။ စက်ရုံအလုပ်ရုံမှ ထွက်လာသော အခိုးအငွေ့များနှင့် အမှုန့်များကို ဖမ်းယူသည့်စနစ်များကို တပ်ဆင်ထားရမည်။ ထိုကဲ့သို့ စွန့်ပစ်ပစ္စည်းများ သန့်စင်ခြင်း၊ စွန့်ပစ်ခြင်းတို့ကို တည်ဆဲပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ(၂၀၁၂)၊ ယင်းနှင့်သက်ဆိုင်သည့် နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် ပတ်ဝန်းကျင်ထိန်သိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၆၁၅/၂၀၁၅) ဖြင့် ထုတ်ပြန်ထားသည့် အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် (၆၁၆/၂၀၁၅) ဖြင့် ထုတ်ပြန်ထားသည့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
အထူးကပ်ဝိတ်ဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ်
K 50000

လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်။ ပတ်ဝန်းကျင်ရှိ သစ်ပင်ကြီးများ၊ ပန်းအလှပင်များ၊ သီးပင်စားပင်များအား ခိုင်လုံသော အကြောင်းပြချက်မရှိဘဲ ခုတ်လှဲခြင်း၊ ရွှေ့ပြောင်းခြင်း၊ နှုတ်ပစ်ခြင်းမပြုရ။ ကုန်ကြမ်းကျောက်တောင်များမှ ကုန်ကြမ်းထုတ်ယူရာတွင် Biodiversity မထိခိုက်အောင် ဆောင်ရွက်ရမည်။ ဒေသခံများနှင့် လုပ်ငန်းဆိုင်ရာ အဆင်ပြေစေရေး အစဉ်ဆောင်ရွက်ပေးရမည်။ လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် ပြဿနာများ၊ မည်သည့်လျော်ကြေးတောင်းဆိုမှုမျိုးကိုမဆို "အငှားချထားခြင်းခံရသူ" က တာဝန်ယူဖြေရှင်းရမည်။ "အငှားချထားသူ"အပေါ်တွင် တာဝန်မရှိစေရ။

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၂၉။ ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးဖြစ်သည့်အပြင် Performance Bank Guarantee ပေးသွင်းပြီးကြောင်း တင်ပြနိုင်မှသာ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ပါသည်။ ဘဏ်အာမခံ Bank Guarantee ပေးသွင်းပြီးမှသာ ငှားရမ်းခြင်းစာချုပ် အတည်ဖြစ်သည်။

**စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၃၀။ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည် အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ စည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

၃၁။ "အငှားချထားခြင်းခံရသူ" မှ ဤစာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှုမရှိခြင်း၊ အခြားသောအဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လ ကြိုတင်အကြောင်းကြားရမည်။

**စာချုပ်ပြင်ဆင်ခြင်း**

၃၂။ ဤစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းတို့ပြုလုပ်လိုပါက "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက်ရယူ၍ ဆောင်ရွက်နိုင်သည်။

**စာချုပ်ရပ်စဲခြင်း**

၃၃။ (က) ဤစာချုပ်၏အောက်ပါအကြောင်းအရာများ တစ်ခုခုဖြစ်ပေါ်လာပါက စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ ခွင့်ပြုချက်ရယူ၍ စာချုပ်ကို ရပ်စဲနိုင်သည်-

(၁) မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များကြောင့် အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(၂) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ" မှ ဖောက်ဖျက်ကျူးလွန်ခြင်း။

(၃) "အငှားချထားခြင်းခံရသူ" က လူမွဲအဖြစ် ခံယူသွားခြင်း။

(၄) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

(၅) နိုင်ငံတော်၏ တည်ဆဲဥပဒေတစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ" မှ ဖောက်ဖျက်ကျူးလွန်ခြင်း။

(၆) နှစ်ဖက်သဘောတူရပ်စဲခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အား ရပ်စဲလိုပါက ရပ်စဲလိုကြောင်း ခိုင်လုံသော အကြောင်းပြချက် ဖော်ပြပြီး စာချုပ်ဝင် တစ်ဖက်မှ အခြားတစ်ဖက်သို့ (၆)လ ကြိုတင်အသိပေး၍ နှစ်ဖက်အကျိုးစီးပွားကို ထိခိုက်မှုမရှိစေရေး ညှိနှိုင်းသဘောတူညီမှု ရယူရမည်။

(ဂ) နိုင်ငံတော်လိုအပ်ချက်အရ လုပ်ငန်းရပ်စဲရန်ကိစ္စများ ဖြစ်ပေါ်လာပါက (၃)လ ကြိုတင် အကြောင်းကြားမည်ဖြစ်ပြီး စာချုပ်ကိုရပ်စဲနိုင်သည်။

၃၄။ စာချုပ်ရပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါ တာဝန်ရှိမှုများအား အကြေအလည်ညှိနှိုင်း၍ ပြီးပြတ်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်းပြီးမြောက်ရမည်။ ယင်းသို့ ရှင်းလင်းပြီးပါ က စာချုပ်ပါငှားရမ်းထားသော ပစ္စည်းများအားလုံးကို "အငှားချထားသူ" ၏ ပိုင်ဆိုင်မှုသို့ လက်ဝယ်ပြန်လည်အပ်နှံရောက်ရှိစေရမည်။ လွှဲပြောင်းအပ်နှံမှုကို (၃) လ အတွင်း ပြီးစီးအောင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။




**ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၃၅။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများကို လိုက်နာရန် ပျက်ကွက်ပြီး၊ ထိုသို့ပျက်ကွက်မှုအတွက် "အငှားချထားသူ"က ပေးပို့သော အကြောင်းကြားစာရရှိပြီးနောက် ရက်ပေါင်းခြောက်ဆယ်အတွင်း ပျက်ကွက်မှုကို ပြန်လည်၍ ပြင်ဆင်ခြင်း၊ ဆောင်ရွက်ခြင်းမပြုလျှင် "အငှားချထားသူ" သည် ငှားရမ်းသည့်စက်ရုံနှင့် မြေကိုပြန်လည်ဝင်ရောက်ခွင့်၊ ပြန်လည်ရယူခွင့်ရှိသည့်အပြင် ထိုသို့ရယူချိန်မှစ၍ ငှားရမ်းမှုကို ရပ်စဲပြီးဆုံးစေရမည်။ ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူသည့် အခွင့်အရေးများသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ" ထံမှ ရရှိမည့်အခွင့်အရေးနှင့် ငှားရမ်းခ (သို့) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်များကို မထိခိုက်စေရ။

၃၆။ ဤသဘောတူစာချုပ်တွင်ပါရှိသော မြေပုံနှင့် နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ အစုံအလင်ရှေ့မှောက်တွင် ၂၀၁၇ ခုနှစ်၊ မတ်လ (၃၁) ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးကြပါသည်-

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း(ကိုယ်စား)** **International Glass Co., Ltd. (ကိုယ်စား)**

ခင်မာရီ
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

ဇော်ဝင်း
မန်နေးဂျင်းဒါရိုက်တာ
၉/မရမ(နိုင်) ၀၁၁၆၂၄၊
International Glass Co., Ltd.

**အသိသက်သေများ**

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - စောအောင် | အမည် | - စိုင်းအောင်စိုး |
| ရာထူး | - အထွေထွေမန်နေဂျာ(နည်းပညာ) | ရာထူး | - ဒါရိုက်တာ |
| လိပ်စာ | - အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | မှတ်ပုံတင်အမှတ် | - ၁၂/လမန(နိုင်)၀၂၇၆၈၅ |
| | | | International Glass Co., Ltd. |

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - မာမာထွန်း | အမည် | - ခင်အောင် |
| ရာထူး | - အထွေထွေမန်နေဂျာ(ဘဏ္ဍာရေး) | ရာထူး | - ဒါရိုက်တာ |
| လိပ်စာ | - အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | မှတ်ပုံတင်အမှတ် | - ၁၂/ စခန(နိုင်) ၀၆၄၂၈၆ |
| | | | International Glass Co., Ltd. |

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - သန်းစိုး | အမည် | - အောင်မျိုးမင်း |
| ရာထူး | - စက်ရုံမှူး | ရာထူး | - မန်နေဂျာ |
| လိပ်စာ | - အမှတ်(၃၆)အကြီးစားစက်ရုံ (ကျောက်ဆည်) | မှတ်ပုံတင်အမှတ် | - ၁၄/ရကန (နိုင်) ၁၁၁၆၀၇ |
| | | | International Glass Co., Ltd. |

နောက်ဆက်တွဲ(က)

# အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)

**ဗွားရမ်းလုပ်ကိုင်ခွင့်ပြုသည့် မြေ(ဧက) (မြေစာရင်းပူးတွဲလျက်)** နောက်ဆက်တွဲ(က-၁)

| | | | | |
|---|---|---|---|---|
| ၁။ | ပင်မစက်ရုံမြေနေရာ | = | ၁၅၇.၁၁ ဧက | နောက်ဆက်တွဲ(က-၂) |
| ၂။ | ကုန်ချောဂိုဒေါင်နေရာ | = | ၃၄.၄၆ ဧက | နောက်ဆက်တွဲ(က-၃) |
| ၃။ | ဇော်ဂျီမြစ်ရေတင်စက်မြေနေရာ | = | ၁.၉၃ ဧက | နောက်ဆက်တွဲ(က-၄) |
| ၄။ | သင်းတွဲမြောင်းမြစ်ရေတင်စက် မိုင်းကွင်းနှင့် ကုန်ကြမ်းစုပုံနေရာ | = | ၁၂၀.၉၆ ဧက | နောက်ဆက်တွဲ(က-၅) |
| | စုစုပေါင်း | | ၃၁၄.၃၆ ဧက | |

အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)

International Glass Co.,Ltd သို့ လွှဲပြောင်းလုပ်ကိုင်ခွင့်ပြုမည့် မြေဧရိယာပြပုံ

နောက်ဆက်တွဲ(က-၁)



**နောက်ဆက်တွဲ(က-၂)**

**တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ**

**မန္တလေးတိုင်း ၊ မန္တလေးမြို့**

တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
စာအမှတ်၊-------
ရက်စွဲ၊-------
မန္တလေးမြို့

**လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆိုသည့်အမိန့်**

**(အမိန့်အမှတ် ၊ ၉ / ၂၀၁၀)**

၁၃၇၁ ခုနှစ် ၊ တပို့တွဲလဆန်း ( ၁၁ ) ရက်

၂၀၁၀ ပြည့်နှစ်၊ ဇန်နဝါရီလ ( ၂၅ ) ရက်

၁၉၅၃ ခုနှစ် ၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ -၃၉ အရ လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချစေရန် ဆင့်ဆိုပေးပိုင်ခွင့်ကိစ္စနှင့် စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏ (၂၂. ၁၁. ၈၈)ရက်စွဲပါစာအမှတ် ၊ ၁၀/၆၀၁-ဆ/ အဖရ ဖြင့်လုပ်ပိုင်ခွင့် အာဏာအပ်နှင်းချက်အရ အောက်ပါဇယားတွင် ဖော်ပြသည့်လယ်ယာမြေကို စိုက်ပျိုးမှုမှအပစာတိုင်(၈) တွင်ဖော်ပြသောနည်းလမ်းအတိုင်းအသုံးချရမည်ဖြစ်ကြောင်း စီမံကိန်းတာဝန်ခံ၊မှန်စက်ရုံစီမံကိန်း၊ ကျောက်ဆည်မြို့နယ်အား ခွင့်ပြုလိုက်သည်-

| တိုင်း | မြို့နယ် | ကျေးရွာအုပ်စု | ကွင်းအမှတ် | | ဦးပိုင် / ဧရိယာ | | အသုံးချရမည့် နည်းလမ်း | တယကရုံးအမှုတွဲအမှတ် |
|---|---|---|---|---|---|---|---|---|
| | | | အမှတ် | အမည် | အမှတ် | ဧက | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| မန္တလေး | ကျောက်ဆည် | ကုလားကျောင်း | ၂၁၄ | တောင်ဘလူအရှေ့ | ၁မှ၉ထိ၊၁၀/၁၊၁၀/၂<br>၁၁မှ၄၁ထိ၊၄၂/၁၊၄၂/၂၊၄၃<br>အခြား | ၁၅၇. ၀၁ | မှန်စက်ရုံမြေနေရာ | ၉/၂၀၁၀ |
| | | | | | စုစုပေါင်း | ၁၅၇. ၀၁ | | |

မှတ်ချက် ။ (က) ဤဇယားတွင်ဖော်ပြသော လယ်ယာမြေကို မြေစာရင်းဦးစီးဌာန စာရင်းတွင် မှန်စက်ရုံမြေနေရာ အဖြစ် ပြောင်းလွဲရန် ၁၉၅၄ ခုနှစ်၊ လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ်ရေး နည်းဥပဒေပဒ်မ - ၈၄ အရ ခွင့်ပြုသည်။

(ခ) ဤဇယားကွက်(၈)၌ ဖော်ပြသော နည်းလမ်းအတိုင်း လယ်ယာမြေကို အသုံးမချလျှင် ဤအမိန့်ကို ပုဒ်မ - ၃၅ အရ ပယ်ဖျက်မည့်အပြင်ဤအမိန့်ကို လိုက်နာရန် ပျက်ကွက်သူသည် အက်ဥပဒေပုဒ်မ -၄၈ အရ ပြစ်ချမှတ်ခြင်းခံရမည်။

(ဂ) အထက်ဖော်ပြပါဦးပိုင်အမှတ်နှင့်ဧရိယာများကို ၂၀၀၉-၂၀၁၀ ခုနှစ်၊ နောက်ဆက်တွဲ မြေပုံစာရင်းများမှ ကောက်နုတ်သုံးစွဲသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

( ဦးခင်မောင်သန်း ၊ အတွင်းရေးမှူး )

မိတ္တူကို

(၁) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ နေပြည်တော်

(၂) တိုင်းအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ မန္တလေးမြို့

(၃) တိုင်းမြေစာရင်းဦးစီးဌာန ၊ မန္တလေးမြို့ ( သက်ဆိုင်ရာမြေစာရင်းမြေပုံတွင်မှတ်သား ရေးသွင်းနိုင်ရေးအတွက် ညွှန်ကြားပေးသွားရန် )

(၄) ခရိုင်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကျောက်ဆည်ခရိုင်

(၅) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ ကျောက်ဆည်ခရိုင်

(၆) ခရိုင်မြေစာရင်းဦးစီးဌာန ၊ ကျောက်ဆည်ခရိုင်

(၇) မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကျောက်ဆည်မြို့နယ်

(၈) မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ ကျောက်ဆည်မြို့နယ်

(၉) မြို့နယ်မြေစာရင်းဦးစီးဌာန ၊ ကျောက်ဆည်မြို့နယ်

(၁၀) ကျေးရွာအုပ်စုအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကုလားကျောင်းကျေးရွာ ၊ ကျောက်ဆည်မြို့နယ်

(၁၁) လျှောက်ထားသူ - စီမံကိန်းတာဝန်ခံ ၊ မှန်စက်ရုံစီမံကိန်း ၊ ကျောက်ဆည်မြို့နယ်

မြေစာရင်းပုံစံ – ၁၀၅

2016 - 0458267

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သော လက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၄၀၀ကျပ် K 400

| | |
|---|---|
| တိုင်းဒေသကြီး/ ပြည်နယ်<br>မန္တလေး | မူးတွဲပါ ပုံအတိုင်း |
| ခရိုင်<br>ကျောက်ဆည် | |
| မြို့နယ်/ မြို့နယ်ခွဲ<br>ကျောက်ဆည် | |
| ရပ်ကွက်/ ကျေးရွာအုပ်စု<br>[illegible] | |
| ကွင်း/ အကွက်အမှတ်နှင့်အမည်<br>[illegible] | |
| ဦးပိုင်အမှတ်/ မြေကွက်အမှတ်<br>[illegible] | |

| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်/ ဂရန်ရှင်/ အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| [illegible] | [illegible] | – | [illegible] | ၁၅၇.၀၁ | [illegible] |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | [illegible] |

(အထက်ဖေါ်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် – [illegible]

လျှောက်လွှာတင်သည့်နေ့စွဲ – ၂၄.၂.၂၀၁၆

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ – ၂၆.၂.၂၀၁၆

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော (၂၀၁၅-၁၆) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

စာအမှတ်
ရုံးတံဆိပ်
ကျောက်ဆည်မြို့

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် – မြေတိုင်း(၄)

နေ့စွဲ –

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် –

နေ့စွဲ –

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကျောက်ဆည်မြို့

လက်ထောက်ဦးစီးမှူး
တိုက်နယ်အမှတ် (၈)

စိစစ်အတည်ပြုပါသည်။

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ် နေ့စွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၃၀၀ကျပ် K 300

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန ★ ကျောက်ဆည်မြို့
စာအမှတ်..........
ရက်စွဲ..........

မြေစာရင်းပုံစံ – ၁၀၆

ခရိုင် – ကျောက်ဆည်   မြို့နယ် – ကျောက်ဆည်   မြေတိုင်းစာရေးအုပ်စု ၊ ၂၄ – ကုလားကျောက်ရွာ   ကွင်း/အကွက်အမှတ်နှင့်အမည်– ၂၁၄ - တောင်ဘက်ရွာအရှေ့

| ခုနှစ် | ဦးပိုင် | အခွန်စည်းကြပ်ခြင်းခံရသူ/ပိုင်ရှင်အမည်/ဂရန်ရှင်/အငှားဂရန် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ(ဧက) | အခွန်တော်သင့်ငွေ (ခိုင်ကြေးအပါအဝင်) (ကျပ်) | မည်ကဲ့သို့ပြောင်းလဲသည့်ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၂၀၁၅-၁၆ | (၁မှ၉ထိ | မြန်စက်ရုံကျောက်ဆည် | - | ဝအ | ၁၅၇.၀၁ | - | (တ.ယ.က-မှတ်တမ်း၏ ၂၅.၁.၂၀၁၀ ရက်စွဲပါ | |
| | ၁၀/၁၊၁၀/၂ | | | (မြန်စက်ရုံမြေ) | | | အမိန့်အမှတ် (၆/၂၀၁၀) အရ မြန်စက်ရုံမြေ | |
| | ၁၁မှ၄၁ထိ | | | | | | နေရာ လ န /ဥစ ညှိနှိုင်းပြင်ဆင်ပြီး | |
| | ၄၂/၁၊၄၂/၂ | | | | | | | |
| | ၄၃-အထိ) | | | | | | | |
| | | | | | | | 26.2.16 | |
| | | | | | | | (ရေမျှားစစ်) | |
| | | | | | | | ဦး၊စီး၊ဗ ရာ ရှိ | |
| | | | | | | | မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန ကျောက်ဆည်မြို့။ | |

အထက်ပါရေးကူးဖော်ပြထားသော အကြောင်းအရာတို့မှာ ၂၀၁၅–၂၀၁၆ ခုနှစ်အတွက် နှစ်စဉ်နောက်ဆက်တွဲ တိုင်းတာခြင်းမြေပုံနှင့် မှတ်ပုံစာရင်းများတွင် ပါရှိသည့်အတိုင်း အမှန်လက်ခံရေးကူးကြောင်း သက်သေခံပါသည်။

လျှောက်ထားသူအမည် – ဦးမြင့်ထွန်း ၉/ကဆန(နိုင်)၀၀၀၆၄၄
လျှောက်လွှာတင်သည့်နေ့စွဲ – ၂၄.၂.၂၀၁၆
လျှောက်သူသို့ လက်ခံပေးအပ်သည့်နေ့စွဲ – ၂၆.၂.၂၀၁၆
ရေးကူးပေးသည့်အကြောင်းအရာ – မြေထောက်ခံချက်ရယူရန်

(ဖော်ပြပါ အကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

ဗဟိုမြို့
မြေစာရင်း(၄)

လက်ထောက်ဦးစီးမှူး
တိုက်နယ်အမှတ်(...)

နောက်ဆက်တွဲ(က-၃)

**တိုင်းဒေသကြီးအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ**

**မန္တလေးတိုင်းဒေသကြီး ၊ မန္တလေးမြို့**

**လယ်ယာမြေကိုသတ်မှတ်သည့်နည်းလမ်းအတိုင်းအသုံးချရန်ဆင့်ဆိုသည့်အမိန့်**

**( အမိန့်အမှတ် ၊ ၉၆ / ၂၀၁၀ )**

၁၃၇၂ ခုနှစ် ၊သီတင်းကျွတ်လဆန်း (၅ )ရက်

၂၀၁၀ပြည့်နှစ် ၊အောက်တိုဘာလ (၁၃ )ရက်

၁၉၅၃ ခုနှစ် ၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ - ၃၉ အရ လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချစေရန် ဆင့်ဆိုပေးပိုင်ခွင့်ကိစ္စနှင့် စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ရုံး၏ (၂၂-၁၁-၈၈)ရက်စွဲပါစာအမှတ် ၊ ၁၀/၆၀၁-ဆ/အဖရ ဖြင့် လုပ်ပိုင်ခွင့် အာဏာအပ်နှင်းချက်အရ အောက်ပါဇယားတွင် ဖော်ပြသည့်လယ်ယာမြေကို စိုက်ပျိုးမှုမှအပ စာတိုင်(၈) တွင် ဖော်ပြသောနည်းလမ်းအတိုင်းအသုံးချရမည်ဖြစ်ကြောင်း စီမံကိန်းတာဝန်ခံ ၊ မှန်စက်ရုံစီမံကိန်း၊ကျောက်ဆည် မြို့နယ်အား (၂၅-၉-၂၀၁၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော မန္တလေးတိုင်းဒေသကြီး အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ အစည်းအဝေးအမှတ်စဉ်(၁၈/၂၀၁၀)အရ ခွင့်ပြုလိုက်သည် -

| တိုင်း | မြို့နယ် | ရပ်ကွက်/ကျေးရွာအုပ်စု | ကွင်း | | ဦးပိုင်၊မြေကွက်/ဧရိယာ | | အသုံးချရမည့်နည်းလမ်း | တယကရုံးအမှုတွဲအမှတ် |
|---|---|---|---|---|---|---|---|---|
| | | | အမှတ် | အမည် | အမှတ် | ဧက | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| မန္တလေး | ကျောက်ဆည် | ကုလားကျောင်း | ၂၁၈-က | ကုလားကျောင်းအရှေ့ | ၄၅၊၄၇၊၄၈/၁၊ ၄၈/၂၊၄၈/၃၊၄၉၊ ၅၂၊၅၃၊၅၆ | ၃၃. ၉၈ | မှန်အချောထည်ပစ္စည်းများသိုလှောင်ရုံဂိုဒေါင်မြေနေရာ | ၉၆/၂၀၁၀ |
| | | | | | အခြားမြေ | ၀. ၄၈ | | |
| | | | | | စုစုပေါင်း | ၃၄.၄၆ | | |

မှတ်ချက်။ (က) ဤဇယားတွင်ဖော်ပြသောလယ်ယာမြေကိုမြေစာရင်းဦးစီးဌာနစာရင်းတွင် **မှန်အချောထည်ပစ္စည်းများသိုလှောင်ရုံဂိုဒေါင်မြေနေရာ**အဖြစ်ပြောင်းလွှဲရန် ၁၉၅၄ ခုနှစ်၊ လယ်ယာမြေ နိုင်ငံပိုင် ပြုလုပ်ရေး နည်းဥပဒေပုဒ်မ - ၈၄ အရ ခွင့်ပြုသည်။

(ခ) ဤဇယားကွက်(၈)၌ ဖော်ပြသော နည်းလမ်းအတိုင်း လယ်ယာမြေကို အသုံးမချလျှင် ဤအမိန့်ကို ပုဒ်မ-၃၅အရ ပယ်ဖျက်မည့်အပြင်ဤအမိန့်ကို လိုက်နာရန် ပျက်ကွက်သူသည် အက်ဥပဒေပုဒ်မ - ၄၈ အရ ပြစ်ဒဏ်ချမှတ်ခြင်းခံရမည်။

(ဂ) အထက်ဖော်ပြပါ ဦးပိုင်အမှတ်နှင့်ဧရိယာများကို ၂၀၁၀-၂၀၁၁ ခုနှစ်၊ နောက်ဆက်တွဲ ဗမြေပုံစာရင်းများမှ ကောက်နှုတ်သုံးစွဲသည်။

ဦး[illegible] ( ...)

မိတ္တူကို

(၁) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ နေပြည်တော်

(၂) တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ မန္တလေးမြို့

(၃) တိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန ၊ မန္တလေးမြို့(သက်ဆိုင်ရာမြေစာရင်းမြေပုံတွင်မှတ်သား ရေးသွင်းနိုင်ရေးအတွက် ညွှန်ကြားပေးသွားရန် )

(၄) ခရိုင်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကျောက်ဆည်ခရိုင်

(၅) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ ကျောက်ဆည်ခရိုင်

(၆) ခရိုင်မြေစာရင်းဦးစီးဌာန ၊ ကျောက်ဆည်ခရိုင်

(၇) မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကျောက်ဆည်မြို့နယ်

(၈) မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ ကျောက်ဆည်မြို့နယ်

(၉) မြို့နယ်ငှမြေစာရင်းဦးစီးဌာန ၊ ကျောက်ဆည်မြို့နယ်

(၁၀) ကျေးရွာအုပ်စုအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကုလားကျောင်း ကျေးရွာအုပ်စု ၊ ကျောက်ဆည်မြို့နယ်

(၁၁) လျှောက်ထားသူ- စီမံကိန်းတာဝန်ခံ ၊ မှန်စက်ရုံစီမံကိန်း ၊ ကျောက်ဆည်မြို့နယ်

\\Sue\D\San Thein(Form-33)pmd

မြေစာရင်းပုံစံ – ၁၀၅

2016 - 0458240

## မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သော လက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

SLRD SECURED

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၃၀၀ကျပ် K 300

| | |
|---|---|
| တိုင်းဒေသကြီး/ ပြည်နယ်<br>မန္တလေး | ဖူးတွဲပါ ပုံအတိုင်း<br>စကေး ၁၆ လက်မ = ၁မိုင် |
| ခရိုင်<br>ကျောက်ဆည် | |
| မြို့နယ်/ မြို့နယ်ခွဲ<br>ကျောက်ဆည် | |
| ရပ်ကွက်/ ကျေးရွာအုပ်စု<br>ကုလားကျောင်း | |
| ကွင်း/ အကွက်အမှတ်နှင့်အမည်<br>၂၁၈က | |
| ဦးပိုင်အမှတ်/ မြေကွက်အမှတ်<br>၄၅၂၇,၄၈၇/၁,၄၈၇/၂,၄၈၇/၃,၄၈၈<br>၅၂၊ ၅၃၊ ၅၆ - ဝA | |

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်/ ဂရန်ရှင်/ အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| (၄၅၂၇,၄၈၇/၁, ၄၈၇/၂, ၄၈၈, ၅၂, ၅၃, ၅၆) | မှန်ကန်ကုံ - ကျောက်ဆည် အမှတ် (၂) [illegible] | – | ဝA (မှန်ကန်ကုံမြေ) | ၃၄.၄၆ | (တ.ပ.ဘက မန္တလေး ၏ ၁၃.၁၀.၂၀၁၁ ရက်စွဲပါ [illegible]) |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | အထက်ဌာနသို့တင်ပြရန် |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် – ဦးမြင့်ထွန်း ၉/ကဆန(နိုင်)၀၀၀၆၄၄ –

လျှောက်လွှာတင်သည့်နေ့စွဲ – ၂၄.၂.၂၀၁၆

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ – ၂၆.၂.၂၀၁၆

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော ( ၂၀၁၅-၁၆ ) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် – [signature] မြေတိုင်း(၅)

နေ့စွဲ – ၂၆.၂.၁၆

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် – [signature] မြင့်မိုး လက်ထောက်ဦးစီးမှူး တိုက်နယ်အမှတ်(၈)

နေ့စွဲ –

(ဦးစိုးအာရှ)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန
ကျောက်ဆည်မြို့။

စိစစ်အတည်ပြုပါသည်။

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ် နေ့စွဲ

မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်မြို့နယ်၊တောင်ဘိုဒေသ၊တောင်ဘိုကျောက်တောင်အား
International Glass Co.Ltd သို့လုပ်ကိုင်ခွင့်ပြုမည့်လုပ်ကွက်တည်နေရာပြမြေပုံ၊

မ. ပ. ည 93 C/2&6




**အညွှန်း**

International Glass Co.Ltd သို့လုပ်ကိုင်ခွင့်ပြုမည့်လုပ်ကွက် (၅၀)ဧက

A-743202 D-746197
B-751202 E-746200
C-751198 F-744200

သီရိလင်းကုမ္ပဏီသို့ငှားရမ်းထားသည့်လုပ်ကွက် (၁၀)ဧက

နောက်ဆက်တွဲ(ဂ-၄)၊ ပုံစံ(၄)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## သတ္တုတွင်းဝန်ကြီးဌာန
## ဝန်ကြီးရုံး
## ဓာတ်သတ္တုအကြီးစားထုတ်လုပ်ရန်ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ ၄၃ / ၂၀၀၀ (ဇရိယာပြင်ဆင်ခြင်း)

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်။

အောက်ဖော်ပြပါ အဖွဲ့အစည်းအား မြန်မာ့သတ္တုတွင်းဥပဒေအရ အောက်ပါအချက်အလက်များနှင့်အညီ ဓာတ်သတ္တုအကြီးစားထုတ်လုပ်ရန်ခွင့်ပြုလိုက်သည် -

၁။ ခွင့်ပြုမိန့်ရသူ၏

| | | | |
|---|---|---|---|
| (က) | အမည်နှင့် နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်- | | |
| (ခ) | အဖွဲ့အစည်းအမည်နှင့် | - | အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း |
| | အဖွဲ့အစည်းမှတ်ပုံတင်အမှတ် | - | |
| (ဂ) | ဆက်သွယ်ရန်နေရပ်လိပ်စာ | - | အဆောက်အဦအမှတ်(၄၁)၊ ဇေယျာဌာနီလမ်း၊ နေပြည်တော် |
| | တယ်လီဖုန်းအမှတ်၊ ဖက်(စ်) အမှတ် | - | ဖုန်း၊ ၀၆၇-၄၀၈၀၇၄၊ ဖက်စ်- ၀၆၇ - ၄၀၈၀၇၄ |

၂။ ခွင့်ပြုဇရိယာ၏

| | | | |
|---|---|---|---|
| (က) | တည်နေရာ (ကျေးရွာ၊ မြို့နယ်၊ | - | ပျက္ခရွှေတောင်လုပ်ကွက်၊ မြစ်သားမြို့နယ်၊ |
| | ခရိုင်၊ ပြည်နယ်/တိုင်းဒေသကြီး) | - | ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| (ခ) | အကျယ်အဝန်း (စတုရန်းကီလိုမီတာ) | - | ၅၀ ဧက ( ၀.၂၀၂၃ စတုရန်းကီလိုမီတာ ) |
| (ဂ) | နယ်နိမိတ်သတ်မှတ်ချက် | - | မြေပုံညွှန်း၊ ၉၃ စီ/၃(၆၆၀၇၀၀၊ ၆၆၅၇၀၀၊ ၆၆၅၇၇၅၊ ၆၆၀၇၇၅)(ပူးတွဲမြေပုံပါ အကျယ်အဝန်းအတိုင်း) |

| | | | |
|---|---|---|---|
| ၃။ | ခွင့်ပြုဇရိယာ၏နယ်မြေ အုပ်ချုပ်မှုဆိုင်ရာအဖွဲ့အစည်း | - | မြစ်သားမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန |
| ၄။ | တစ်ဆင့်သွားလာဝင်ထွက်ခွင့် | - | မြစ်သားမြို့နယ် |
| ၅။ | ခွင့်ပြုသည့်ဓာတ်သတ္တုအမျိုးအစား | - | ကြွေကျောက်(စက်မှုတွင်းထွက်ကုန်ကြမ်း) |
| ၆။ | ခွင့်ပြုသည့်ဓာတ်သတ္တုတူးဖော်မှုနှင့် | - | ဟင်းလင်းဖွင့်တူးဖော်ခြင်း၊ မြန်မာ့သတ္တုတွင်းဥပဒေပုဒ်မ ၂ (ည)ပါအတိုင်း |
| ၇။ | ခွင့်ပြုသက်တမ်းကာလ | - | ၃၀. ၁၁ . ၂၀၀၀ မှ ၂၉.၁၁.၂၀၂၀ ထိ(၂၀)နှစ် |
| ၈။ | ဇရိယာပြင်ဆင်လုပ်ကိုင်ခွင့်ပြုသည့်ရက်စွဲ | - | ၈ . ၁၁ . ၂၀၀၂ |
| ၉။ | ခွင့်ပြုမိန့်ကုန်ဆုံးသည့်ရက်စွဲ | - | ၂၉ . ၁၁ . ၂၀၂၀ |
| ၁၀။ | ပုံသေမြေငှားရမ်းခ (Dead Rent) | - | တစ်စတုရန်းကီလိုမီတာလျှင် တစ်နှစ် (၂,၀၀၀,၀၀၀)ရှုန်း |
| ၁၁။ | ဓာတ်သတ္တုခွန် | - | ( ၃ %) |
| ၁၂။ | စည်းကမ်းချက်များ | - | တစ်ဖက်ပါစည်းကမ်းချက်များအတိုင်းတိကျစွာလိုက်နာရမည်။ |

မြင့်အောင်

ပြည်ထောင်စုဝန်ကြီး
သတ္တုတွင်းဝန်ကြီးဌာန

အမှတ်(၃၆)အကြီးစားစက်ရုံ(မှန်စက်ရုံ(ကျောက်ဆည်)) တည်နေရာပြပုံနှင့် ဒိုလိုမိုက်ကျောက်ထုတ်လုပ်သည့် တောင်ဘိုတောင်နေရာပြပုံ



## စည်းကမ်းချက်များ

၁။ ဓာတ်သတ္တုထုတ်လုပ်ရန် ခွင့်ပြုမိန့်ရရှိသူသည်-

(က) ခွင့်ပြုဧရိယာသို့ ဥပဒေနှင့်အညီ ဝင်ရောက်လုပ်ကိုင်ခွင့်ရှိသည်။

( ခ ) ဓာတ်သတ္တုထုတ်လုပ်ခြင်းလုပ်ငန်းမစမီ နယ်မြေအုပ်ချုပ်ရေးဆိုင်ရာအဖွဲ့အစည်းသို့ သတင်းပို့အစီရင်ခံရမည်။

( ဂ ) မိမိအားတရားဝင်လုပ်ကိုင်ခွင့်ပြုထားသော ဧရိယာအတွင်း(ခွင့်ပြုဧရိယာ နယ်နိမိတ် အနားသတ်မျဉ်းမှ အောက်သို့တည့်မတ်စွာ ဆွဲသည့် ဒေါင်လိုက်မျဉ်းများအတွင်း) ၌သာ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ရမည်။

(ဃ ) မိမိအား တရားဝင်လုပ်ကိုင်ခွင့်ပြုထားသော လုပ်ကွက်ကို အခြားမည်သူသို့မဆို ကိုယ်စားလှယ်အဖြစ်လုပ်ကိုင်စေခြင်းမှအပ ဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ လွှဲပြောင်းပေးခြင်း၊ ပြန်လည်ရောင်းချခြင်းမပြုလုပ်ရ။

( င ) တူးဖော်ထုတ်လုပ်ခွင့်ပြုထားသည့် နယ်မြေဒေသလုပ်ကွက်အတွင်းမှ ခွင့်ပြုထားသည့် ဓာတ်သတ္တုကိုသာ ခွင့်ပြုထားသည့် နည်းစနစ်အတိုင်း တူးဖော်ထုတ်လုပ်ရမည်။ အခြားမည်သည့် စီးပွားရေးလုပ်ငန်းကိုမျှ လုပ်ကိုင်ခွင့်မပြု။

( စ ) လုပ်ကိုင်ခွင့်ပြုထားသည့် နယ်မြေဒေသရှိ လုပ်ကွက်အတွင်း တူးဖော်ခွင့်ပြုထားသည့် ဓာတ်သတ္တုမှအပ အခြားဓာတ်သတ္တုများနှင့် ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်ပစ္စည်းများ တွေ့ရှိပါက ဦးစီးဌာနသို့ မပျက်မကွက် ချက်ချင်းအကြောင်းကြားရမည်။

( ဆ) ခွင့်ပြုမိန့်ပါ ဓာတ်သတ္တုနှင့် စပ်လျဉ်း၍ တူးဖော်ရရှိမှု ၊ ရောင်းချမှုနှင့် လက်ကျန်ပမာဏတို့ကို ဦးစီးဌာနသို့ သတ်မှတ်ပုံစံဖြင့် လစဉ် အစီရင်ခံစာ ပေးပို့ရမည်။

( ဇ ) တူးဖော်ထုတ်လုပ်ရရှိသည့် ဓာတ်သတ္တုများကို-

(၁) မြန်မာကျပ်ငွေဖြင့် ရောင်းချပါက သတ်မှတ်စည်းကြပ်သည့် ဓာတ်သတ္တုခွန်ကို မြန်မာငွေဖြင့်ပေးဆောင်ရမည်။

(၂) နိုင်ငံခြားငွေဖြင့်ရောင်းချပါက သတ်မှတ်စည်းကြပ်သည့် ဓာတ်သတ္တုခွန်ကို သတ်မှတ်သည့် နိုင်ငံခြားငွေဖြင့် ပေးဆောင်ရမည့်.။

( ဈ ) တူးဖော်ထုတ်လုပ်မည့် လုပ်ကွက်တွင်လုပ်ငန်းလုပ်ကိုင်မည့် အလုပ်သမားစာရင်းကိုအမည်၊အသက်၊နိုင်ငံသားစိစစ်ရေးကဒ်ပြား အမှတ်၊ နေရပ်လိပ်စာ အပြည့်အစုံပြုစု၍ လုပ်ကွက်ရှိ လုပ်ငန်းရုံးတွင်ထားရှိရမည်။ ဓာတ်ပုံမိတ္တူတစ်စောင်ကို ဦးစီးဌာနသို့ ပေးပို့ တင်ပြရမည်။ (အလုပ်သမားစာရင်း အပြောင်းအလဲရှိတိုင်း ချက်ချင်းတင်ပြရမည်။

( ည) လုပ်ငန်းခွင်တွင် အပြင်းအထန် ထိခိုက်ဒဏ်ရာရရှိခြင်း၊ ထိခိုက်သေဆုံးခြင်းနှင့် ဥပဒေ၊ နည်းဥပဒေအရ သတင်းပို့ရမည့် မတော်တဆမှုများ ဖြစ်ပွားပါက သတ္တုတွင်းစစ်ဆေးရေးအရာရှိချုပ်ထံ ဥပဒေ၊ နည်းဥပဒေတို့နှင့်အညီ အကြောင်းကြားရမည်။ အလုပ်သမားလျော်ကြေးဥပဒေနှင့် အကျုံးဝင်သည့် ထိခိုက်ဒဏ်ရာရရှိခြင်း၊သေဆုံးခြင်းဖြစ်ပေါ်ပါက ခွင့်ပြုမိန့်ရရှိသူမှ လျော်ကြေး ပေးရန် တာဝန်ယူရမည်။ ထို့ပြင်ခွင့်ပြုမိန့်ရရှိသူသည် အလုပ်သမားများနှင့်ပတ်သက်၍ ပြဋ္ဌာန်းထားသည့် တည်ဆဲဥပဒေများ၊ နည်းဥပဒေများ ၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။

( ဋ ) သစ်တောနယ်မြေ သို့မဟုတ် သစ်တောဖုံးလွှမ်းလျက်ရှိသော ပြည်ထောင်စုအစိုးရက စီမံခန့်ခွဲခွင့်ရှိသည့်မြေတွင် သစ်ပင်ခုတ်လှဲ ခြင်း၊မြေကြီးတူးဆွခြင်းစသည့် တစ်စုံတစ်ရာလုပ်ကိုင်လိုပါက သက်ဆိုင်ရာသစ်တောဦးစီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်။

( ဌ ) မိမိအားခွင့်ပြုထားသည့်ဧရိယာအား နယ်နိမိတ်တိုင်းတာသတ်မှတ်စိုက်ထူခြင်းကို မိမိကုန်ကျစရိတ်ဖြင့် ဆောင်ရွက်ထားရှိရမည်။

( ဍ ) ဓာတ်သတ္တုတူးဖော်ထုတ်လုပ်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ထိခိုက်မှုမဖြစ်စေရန် စီမံဆောင်ရွက်ရမည်။

( ဎ ) သက်ဆိုင်ရာအခွင့်အာဏာရှိသူများမှ စိစစ်သည့်အခါ ပြသနိုင်ရန် ခွင့်ပြုမိန့်ဓာတ်ပုံမိတ္တူကို လုပ်ငန်းခွင်တွင်ချိတ်ဆွဲထားရှိပြီး မူရင်းကို လုံခြုံစွာ ထိန်းသိမ်းထားရှိရမည်။

( ဏ) ဥပဒေအရ ပေးဆောင်ရမည့် ပုံသေမြေငှားရမ်းခ ( Dead Rent) ကို ပေးသွင်းရန် သတ်မှတ်သည့်နေ့မှ တစ်လအတွင်းဦးစီးဌာနသို့ ပေးသွင်းရမည်။ ဆက်လက်လုပ်ကိုင်လိုပါက သက်တမ်းမကုန်ဆုံးမီ (၆)လကြိုတင်၍ လျှောက်ထားရမည်။

( တ ) ဝန်ကြီးဌာန/ဦးစီးဌာနက အခါအားလျော်စွာ သတ်မှတ်သည့် စည်းကမ်းချက်များကို လိုက်နာရမည်။

၂။ ခွင့်ပြုမိန့်ရရှိသူသည် အထက်ပါစည်းကမ်းချက်များအပြင် ဥပဒေ၊နည်းဥပဒေ၊ အမိန့်နှင့် ညွှန်ကြားချက်များကို လည်းလိုက်နာရမည်။

၃။ ဤခွင့်ပြုမိန့်အား သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၂၇/၂၀၁၂)ကြိမ်မြောက် အစည်းအဝေးမှ သဘောတူ ခွင့်ပြုချက်အရ ထုတ်ပေးခြင်းဖြစ်သည်။

၄။ ဤခွင့်ပြုမိန့်အား ထုတ်ပေးသည့်နေ့မှစ၍ (၃)လအတွင်းလုပ်ငန်းများစတင်ဆောင်ရွက်ခြင်းမပြုပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၅။ ဤခွင့်ပြုမိန့်အရ ခွင့်ပြုထားသောလုပ်ကွက်ဧရိယာအား နိုင်ငံတော်အတွက်လိုအပ်ပါက ခွင့်ပြုကာလအတွင်း ပြန်လည်သိမ်းယူခွင့်ရှိရမည်။

၆။ ဤခွင့်ပြုမိန့်၌ သတ်မှတ်စည်းကမ်းဘောင်အတွင်း မြေပိုင်ဆိုင်မှုနှင့် သက်ဆိုင်သော လုပ်ငန်းလုပ်ကိုင်ခွင့်နှင့် သက်ဆိုင်သောအငြင်းပွားမှုများ၊ စောဒကတက်မှုများ၊ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးစေမှုနှင့် ပတ်သက်သော တိုင်ကြားချက်များ ၊ အငြင်းပွားမှုများဖြစ်ပွားပါက အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်းမှသာ တာဝန်ယူဖြေရှင်းရန်၊ မဖြေရှင်းနိုင်ပါက လုပ်ကိုင်ခွင့်ရပ်ဆိုင်းခြင်း ပေးသွင်းထားသည့်အခွန်အခနှင့် အခြားပေးသွင်းမှုများ သိမ်းယူခြင်း၊ လုပ်ကွက် ပြန်လည်သိမ်းယူခြင်းခံရမည်ကို သဘောတူဝန်ခံကတိပြုရမည်။

၇။ ဤခွင့်ပြုမိန့်အရခွင့်ပြုထားသောလုပ်ကွက်အတွင်း နိုင်ငံခြား...

## မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ မြစ်သားမြို့နယ်၊ ပျက္ခရွှေတောင်တွင် အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းသို့ ကြွေကျောက်(စက်မှုထွင်းထွက်ကုန်ကြမ်း) အကြီးစားထုတ်လုပ်ရန် ခွင့်ပြုသော လုပ်ကွက်၏ တည်နေရာပြမြေပုံ

မြေပုံအမှတ်၊ ၉၃-စီ/၃




အညွှန်း

■ ခွင့်ပြုသောလုပ်ကွက်၏တည်နေရာ
( ၆၆၀၇၈၀၊ ၆၆၅၇၈၀၊ ၆၆၅၇၈၅၊ ၆၆၀၇၈၅ )

| စစ်ဆေးသူ | အတည်ပြုသူ |
| --- | --- |
| ကြည်ဝင်းဇော် | ကိုကိုလွင် |
| ဒုတိယညွှန်ကြားရေးမှူး | ညွှန်ကြားရေးမှူး |
| သတ္တုတွင်းဦးစီးဌာန | သတ္တုတွင်းဦးစီးဌာန |

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ မြစ်သားမြို့နယ်၊ ပျက္ကွရွှေတောင်တွင်
အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းသို့ ကြွေကျောက်(စက်မှုထွင်းထွက်ကုန်ကြမ်း) အကြီးစားထုတ်လုပ်ရန်
ခွင့်ပြုသော လုပ်ကွက်၏ ဧရိယာအကျယ်အဝန်းနှင့်ပုံသဏ္ဌာန်ပြမြေပုံ

မြေပုံအမှတ်၊ ၉၃-စီ/၃




အညွှန်း

ကြွေကျောက်(စက်မှုထွင်းထွက်ကုန်ကြမ်း)အကြီးစားထုတ်လုပ်ရန် ခွင့်ပြုသောလုပ်ကွက်၏ဧရိယာ (၅၀)ဧက

စစ်ဆေးသူ

အတည်ပြုသူ

ကြည်ဝင်းဇော်
ဒုတိယညွှန်ကြားရေးမှူး
သတ္တုတွင်းဦးစီးဌာန

D:\ASY\Office Letter.doc

နောက်ဆက်တွဲ(င)

**အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)**

**ကုမ္ပဏီမှဝယ်ယူခဲ့သော လက်ကျန်ပစ္စည်းများစာရင်းနှင့်တန်ဖိုး**

| စဉ် | အကြောင်းအရာ | တန်ဖိုး(ကျပ်) |
|---|---|---|
| ၁။ | သဘာဝကုန်ကြမ်းနှင့်ဓါတုကုန်ကြမ်းလက်ကျန်နှင့်တန်ဖိုး | ၈၄၆၉၄၉၀၂၁.၇၅ |
| ၂။ | တစ်ဝက်တစ်ပျက်ကုန်ကြမ်း | ၂၉၈၀၉၈၂၆.၅၀ |
| ၃။ | Cullet | ၅၃၅၀၈၈၂၉၈.၀၀ |
| ၄။ | စက်ဆီ၊ချောဆီ၊လောင်စာဆီလက်ကျန်နှင့်တန်ဖိုး | ၅၂၁၇၈၃၈၇၀.၇၂ |
| ၅။ | ထုတ်ပိုးပစ္စည်းလက်ကျန်နှင့်တန်ဖိုး | ၅၀၃၃၀၅၇၇၄.၆၂ |
| ၆။ | ယမ်းနှင့်ဆက်စပ်ပစ္စည်းစာရင်းလက်ကျန်နှင့်တန်ဖိုး | ၃၅၉၉၉၅၂၉.၅၅ |
| ၇။ | စတိုရှိအထွေထွေပစ္စည်းစာရင်းလက်ကျန်နှင့်တန်ဖိုး | ၁၁၂၃၇၀၅၆.၄၀ |
| ၈။ | စတိုရှိစက်အရန်ပစ္စည်းစာရင်းလက်ကျန်နှင့်တန်ဖိုး | ၁၃၅၄၁၅၀၂၀.၃၇ |
| ၉။ | Two Years Spare Parts | ၅၅၃၅၅၄၀၀၀.၀၀ |
| | **စုစုပေါင်းတန်ဖိုး** | **၃၀၇၃၁၄၂၃၉၇.၉၁** |

**ကုမ္ပဏီမှဝယ်ယူခဲ့သောကုန်ချောမှန်တန်နှင့်တန်ဖိုး**

| စဉ် | အကြောင်းအရာ | တန်ဖိုး (ကျပ်သန်း) |
|---|---|---|
| ၁ | ကုန်ချောမှန် (၆၁၃၅၇.၉၅) တန် | ၉၃၇၀.၁၀၂ |

ခင်ဆွေဦး
ဘဏ္ဍာရေးမှူး

ကျော်စွာ
ဒု-စက်ရုံမှူး

သန်းစိုး
ခေတ္တစက်ရုံမှူး

# အမှတ်(၃၆)အကြီးစားစက်ရုံ(ကျောက်ဆည်)
# တည်နေရာပြပုံ



# "International Glass Company Limited."

## (အင်တာနေရှင်နယ်ဂလပ်(စ်)ကုမ္ပဏီလီမိတက်)

မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်စက်မှုနယ်မြေ

၏

## မှန်စက်ရုံ (ကျောက်ဆည်) စီမံကိန်း

## ကနဦးပတ်ဝန်းကျင်ဆိုင်ရာလေ့လာဆန်းစစ်ခြင်း

## (Initial Environmental Examination – IEE )

## အကျဉ်းချုပ်အစီရင်ခံစာ



ပြုစုသူ


**Green Myanmar Environmental Services Co., Ltd. (GMES Co., Ltd.)**

အမှတ် (၁၁၅)၊ ကနောင်မင်းသားကြီးလမ်း၊ စက်မှုဇုန်အပိုင်း(၁)၊

လှိုင်သာယာစက်မှုမြို့၊ ရန်ကုန်တိုင်းဒေသကြီး၊

# အင်တာနေရှင်နယ်ဂလပ်(စ်)ကုမ္ပဏီလီမိတက်

# International Glass Company Limited

## မှန်စက်ရုံ (ကျောက်ဆည်) စီမံကိန်း

ကနဦးပတ်ဝန်းကျင်ဆိုင်ရာလေ့လာဆန်းစစ်ခြင်း

(Initial Environmental Examination – IEE)

အစီရင်ခံစာအကျဉ်းချုပ်

# အစီရင်ခံစာအကျဉ်းချုပ်

ကျောက်ဆည်မှန်ထုတ်လုပ်ရေးစက်ရုံ စီမံကိန်းသည် ( ၂၀၁၄) ခုနှစ် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေးဆိုင်ရာ စည်းကမ်းဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး စက်ရုံ ဆောက်လုပ်ရေးနှင့် လည်ပတ်ရေးဆောင်ရွက်မှုများသည်လည်း သဘာဝပတ်ဝန်းကျင်ဆိုင်ရာ သတ်မှတ်ချက်များအတိုင်း လိုက်နာလုပ်ဆောင်ရမည် ဖြစ်ပါသည်။ သက်ဆိုင်ရာဒေသန္တရ အာဏာပိုင်များမှ ချမှတ်ထားသော ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) လုပ်ထုံးလုပ်နည်းများနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကောင်းမွန် သောလုပ်ဆောင်ချက်များအား တိတိကျကျ လိုက်နာကျင့်သုံးစေရန်အတွက် ရှေးဦးဆောင်ရွက်ရန် လိုအပ်သော "ကနဦးပတ်ဝန်းကျင်ဆိုင်ရာလေ့လာဆန်းစစ်မှု" ကို ဆောင်ရွက်ရမည်ဖြစ်ပါသည်။ မှန်စက်ရုံစီမံကိန်း ဆောင်ရွက်နိုင်ရန်အတွက် ပတ်ဝန်းကျင်ဆိုင်ရာ လိုက်နာဆောင်ရွက်မှု အသိမှတ်ပြုလက်မှတ် (Environmental Compliance Certificate) ရရှိရန်လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ကို ကြိုတင်စီမံရေးဆွဲဆောင်ရွက် ပေးရမည်ဖြစ်ပါသည်။

ယင်းကိစ္စများကို စီမံဆောင်ရွက်ရန်အတွက် Green Myanmar Environmental Services Co., Ltd. (GMES Co., Ltd.) မှ ကနဦးပတ်ဝန်းကျင်ဆိုင်ရာ လေ့လာဆန်းစစ်မှုကို တာဝန်ယူ ဆောင်ရွက်ခဲ့ပါသည်။ စက်ရုံလက်စွဲအနေဖြင့် အသုံးပြုနိုင်ရန် ရေးဆွဲပေးထားသော တိကျ ခိုင်မာသည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) အတိုင်း China CAMC Engineering Co., Ltd. မှ လိုက်နာလုပ်ဆောင်ခြင်းအားဖြင့် အကျိုးသက်ရောက်မှုရှိသော ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

ယခုအစီရင်ခံစာသည် မန္တလေးတိုင်းဒေသအတွင်းရှိ ကျောက်ဆည်စက်မှုဇုန်အတွင်း ဆောင်ရွက်လျက်ရှိသည့် ကျောက်ဆည်မှန်စက်ရုံ၏ ဆောင်ရွက်မှုတွေ့ရှိချက်များအား အစီရင်ခံ တင်ပြထားခြင်းဖြစ်ပါသည်။ ကျောက်ဆည်မှန်စက်ရုံစီမံကိန်းမြေဧရိယာအနေဖြင့် (၁၅၇.၀၁) ဧက ကျယ်ဝန်းပြီး ကျောက်ဆည်မြို့ အရှေ့ဘက် (၅) မိုင်အကွာ၊ ကျောက်ဆည်စက်မှုဇုန်၏ တောင်ဘက်တွင် တည်ရှိပြီး ရန်ကုန်-မန္တလေး အမြန်လမ်းမကြီးမှ (၁၀.၂၁) ကီလိုမီတာ ကွာဝေးကာ စက်မှုဇုန်လမ်းမကြီးပေါ်တွင် တည်ရှိပါသည်။

မှန်ထုတ်လုပ်ရေးစီမံကိန်းတစ်ခုလုံးအား အောက်ပါအဆင့်များအတိုင်း ဆောင်ရွက်မည် ဖြစ်ပါသည်။

- မြေဧရိယာ ဖော်ထုတ်ခြင်း
- မြေပြင်အနေအထားလေ့လာတိုင်းတာခြင်းနှင့် အဆောက်အဦဆိုင်ရာအတွက် မြေသား စမ်းသပ်ခြင်း
- အင်ဂျင်နီယာဆိုင်ရာဒီဇိုင်းများရေးဆွဲခြင်း

- လိုအပ်သောပစ္စည်းများဝယ်ယူစုဆောင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း (ဖော်ပြပါပစ္စည်းများပါဝင်သော စက်ရုံစုတစ်ခု၊ မှန်ကွဲစများပြန်လည် အရည်ကျိုသောစနစ်၊ မီးပြင်းဖိုခေါင်းတိုင်ပါ ဖန်ရည်ကျိုမီးဖိုနှင့် အရည်ထည့်ကန်၊ လိုအပ်ပါက အသုံးပြုနိုင်ရန် ဘေးထွက်ဓါတ်ငွေ့ သန့်စင်မှုစနစ်၊ မှန်မီးဆေးဖို၊ မှန်ချပ်တပ်စက်၊ သယ်/ပို့စနစ်၊ ထုပ်ပိုးစက်များ စသည်ဖြင့်)
- မြေရှင်းခြင်း၊ မြို့ရှင်းခြင်း
- မြေတူးခြင်း၊ မြေပြုပြင်ခြင်း
- ဆောက်လုပ်ရေးလုပ်ငန်းများဆောင်ရွက်ခြင်း
- မှန်ချပ်စက်ရုံအား ပုံစံထုတ်တည်ဆောက်ပြီး စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်သူထံ လွှဲပြောင်းအပ်နှံခြင်း
- စက်ရုံလည်ပတ်ခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်း
- စီမံကိန်းစခန်းသိမ်းခြင်း (ယာယီတဲများဖျက်သိမ်းခြင်း သံတိုသံစ၊ ဆောက်လုပ်ရေးလုပ်ငန်းဘေးထွက်ပစ္စည်းများ၊ ဆီ အညစ်အကြေးများ ဖယ်ရှားခြင်း)

စီမံကိန်း၏ရည်မှန်းချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ပြည်တွင်းကုန်ကြမ်းများကို အသုံးပြု၍ အရည်အသွေးမြင့်မှန်များထုတ်လုပ်ရန်

(ခ) မှန်ထုတ်လုပ်မှုအဆင့်မြင့်နည်းပညာများဖွံ့ဖြိုးတိုးတက်လာစေရန်

(ဂ) အရည်အသွေးမြင့်မှန်များအသုံးပြုခြင်းဖြင့် လူနေမှုဘဝ အဆင့်အတန်းမြင့်လာစေရန်

(ဃ) မှန်တင်သွင်းမှုလျှော့ချခြင်းဖြင့် နိုင်ငံခြားသုံးငွေချွေးချာရန်

(င) နိုင်ငံတော်၏ စီးပွားရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ပြီး ဒေသတွင်း အလုပ်အကိုင်အခွင့်အလမ်းတိုးပွားစေရန်

## မှန်ထုတ်လုပ်မှုနည်းစဉ်

မှန်ကိုအဓိကအားဖြင့် ဆီလီကွန်ဒိုင်အောက်ဆိုဒ်/သဲ၊ ဆိုဒီယမ်ကာဗွန်နိတ်၊ ထုံးကျောက်နှင့် ကယ်လ်ဆီယမ်ကာဗွန်နိတ်တို့မှ ထုတ်လုပ်နိုင်ပါသည်။

မှန်ထုတ်လုပ်မှုနည်းစဉ်တွင် အဆင့်ပေါင်းများစွာပါဝင်ပြီး အဆင့်တိုင်းသည် အရည်အသွေးမြင့် မှန်ထွက်ရှိရေးအတွက် အရေးကြီးပါသည်။ မှန်ထုတ်လုပ်ရာတွင်တွင် သဲ ၇၀% နှင့် ဆီလီကာ ၃၀% တို့ကိုပေါင်းစပ်ကာ အပူချိန် ၁၇၀၀°C တွင် အရည်ပျော်စေပြီး ယင်းပျော်ရည်အား ၅၀၀°C ခန့်တွင် အေးခဲစေခြင်းဖြင့် မှန်ကို ရရှိပါသည်။ စက်ရုံကိုလိုက်၍ အပူချိန်ထိန်းချုပ်မှု အပြောင်းအလဲ ရှိနိုင်ပါသည်။

သမားရိုးကျ မီးပြင်းဖိုများကို မီးထိုးရာတွင် လေနှင့်သဘာဝဓါတ်ငွေ့တို့ကို ပေါင်းစပ်၍ ထိုးခြင်းဖြင့် မီးပြင်းဖိုအတွင်းတွင် သဲနှင့်ဆီလီကာတို့ အရည်ပျော်ပေါင်းစပ်သွားပါသည်။ အရည်ပျော်ခြင်းအဆင့်ပြီးဆုံးပါက မှန်ကိုပုံသွင်းနိုင်ရန်အတွက် အပူချိန်ကို လျှော့ချရပါသည်။ မှန်အပူချိန်

လျော့ကျသွားပါက ပုံသွင်းခြင်းအဆင့်ကို စတင်ပြုလုပ်ရပါသည်။ လိုအပ်သော ပုံသဏ္ဍာန်ရရှိပြီးသော မုန့်များကို နောက်ဆုံးအဆင့်အနေနှင့် မီးဆေးရပါသည်။ ဤအဆင့်တွင် မုန့်မကွဲစေရန်နှင့် ခံနိုင်ရည်အားပိုမိုလာစေရန်အတွက် မုန့်ချပ်အား ဖြည်းညှင်းစွာ အအေးခံရပါသည်။

ပုံမုန့်အားဖြင့် မုန့်ထုတ်လုပ်သူများသည် မုန့်ထုတ်လုပ်မှုကို တစ်နှစ်လျှင် ရက်ပေါင်း(၂၀၀) ခန့်ထုတ်လုပ်လေ့ရှိပြီး မုန့်အမျိုးအစားအသစ်ထုတ်လုပ်ခြင်းကို တစ်ပတ်လျှင် နှစ်ကြိမ်၊ သုံးကြိမ်ခန့် ပြုလုပ်ကြပါသည်။ မီးပြင်းဖို ပြင်ဆင်ထိန်းသိမ်းခြင်းလုပ်ငန်းများကို ကျန်တစ်နှစ်အတွင်း အားလပ်ရက်ရှည်များနှင့် တိုက်ဆိုင်၍ ဆောင်ရွက်လေ့ရှိပြီး စက်ရုံအများစုသည် မီးပြင်းဖိုများကို ကိုယ်တိုင်ဆောက်လုပ်ထိန်းသိမ်း ပြုပြင်လေ့ရှိပါသည်။ ပြုပြင်ထိန်းသိမ်းရေးကာလအတွင်း မီးဖိုအရှေ့နံရံအားဖြုတ်ချဖြိုချပြီး မီးပြင်းဖိုအတွင်းရှိ ဘေးနံရံများတွင် ကပ်နေသော မုန့်စပိုများ၊ အပိုင်းအစများကို သန့်ရှင်းရေးပြုလုပ်ကာ ဖြိုချထားသော နံရံကို ပြန်လည်တည်ဆောက်ပါသည်။

**မီးပြင်းဖိုများမှထုတ်လွှတ်ခြင်း**

မြင့်မားသောအပူချိန်၌ အန္တရာယ်ရှိပစ္စည်းများ အရည်ပျော်ရာမှ ထွက်ရှိသော ထုတ်လွှတ်မှုများသည် အခြားစက်မှုလုပ်ငန်းများကဲ့သို့ပင် အဓိကစဉ်းစားရမည့်အချက်ဖြစ်ပါသည်။

မုန့်အကြည်ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ညစ်ညမ်းမှုများသည် စက်မှုဓာတုဗေဒနှင့် နှိုင်းယှဉ်လျှင်အလွန်နည်းပါးပါသည်။ သို့သော်လည်း ရောင်စုံမုန့်များထုတ်လုပ်ရန်အတွက် သတ္တုပစ္စည်းများကို အသုံးပြုရသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု မြင့်မားစေနိုင်ပါသည်။

မီးပြင်းဖိုများအား ရှေးယခင်က မီးထိုးဆီဖြင့် မီးထိုးခဲ့ကြသဖြင့် မီးထိုးရာမှ ထွက်လာသော အငွေ့များကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုကို ဖြစ်ပေါ်စေပါသည်။ သို့ဖြစ်ပါ၍ မီးပြင်းဖိုများအား ညစ်ညမ်းမှုနည်းစေသည့် သဘာဝဓါတ်ငွေ့ဖြင့် မီးထိုးခြင်းအားဖြင့် မီးပြင်းဖိုများမှ လေထုညစ်ညမ်းစေမှုကို လျော့ချနိုင်ပြီး လေထုတ်စနစ်များတွင် အမှုန်အမွှားစစ်ဇကာများ ထပ်မံတပ်ဆင်ပေးခြင်းဖြင့် လေထုညစ်ညမ်းမှုကိုပိုမိုလျော့ကျစေနိုင်ပါသည်။

မုန့်ထုတ်လုပ်ရာတွင် အသုံးပြုရသော အမျိုးအမည်စုံ ဒြပ်ပစ္စည်းအရောများမှ လေထုအတွင်းသို့ အန္တရာယ်ရှိနိုင်သော အခိုးအငွေ့များထုတ်လွှတ်ပါသည်။ ဒြပ်ပစ္စည်းများ အရည်ပျော်ရန် အသုံးပြုရသော နည်းစဉ်၏ အလွန်မြင့်မားသော အပူချိန်သည် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သော ကာဗွန်ဒိုင်အောက်ဆိုဒ်ဓါတ်ငွေ့များ၊ သက်ရှိသတ္တဝါတို့ကို ထိခိုက်စေနိုင်သော ဓာတ်ငွေ့များဖြစ်သည့် ကာဗွန်မိုနော့ဆိုဒ်နှင့် နိုက်တြိုဂျင်အောက်ဆိုဒ်တို့ကို လေထုအတွင်း ထုတ်လွှတ်စေနိုင်ပါသည်။ ယင်းမီးရှို့မှုဖြစ်စဉ်အတွင်း အခြားတိုးပွားလာသည့် အန္တရာယ်များမှာ ဘိုရွန်၊ ကလိုရင်း၊ ဖလိုရင်းဓါတ်ငွေ့များနှင့် ခဲနိုက်တြိတ်၊ ဆာလဖိတ် စသည့် ထုတ်လွှတ်မှုများဖြစ်ပါသည်။ ယင်းထုတ်လွှတ်မှုများဖြစ်သော နိုက်တြိတ်၊ ဆာလဖိတ်နှင့် ကလိုရင်းတို့မှာ ရေနှင့်ပေါင်းစပ်ပါက အဆောက်အဦနှင့်စက်ကိရိယာများအား ပျက်စီးစေနိုင်သည့် အက်ဆစ်ဓာတ်များ အဖြစ်ပြောင်းလဲသွားပြီး လူနှင့်သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်ပါသည်။

မှန်ကို အရောင်သွင်းရာတွင် အသုံးပြုရသော အခြေခံသတ္တုများမှာ သိပ်သည်းဆများသည့် သတ္တုများ ဖြစ်ပြီး ယင်းတို့လောင်ကျွမ်းရာမှထွက်လာသော အခိုးအငွေ့များမှာ သက်ရှိသတ္တဝါများကိုထိခိုက်စေနိုင်ပါသည်။ ယင်းတို့သည် လူနှင့်သတ္တဝါများ၏ အသက်ရှူလမ်းကြောင်းနှင့် အူလမ်းကြောင်းတို့မှ ဝင်ရောက်ပြီး ကိုယ်တွင်းအင်္ဂါများကို ထိခိုက်စေနိုင်ပါသည်။

**ပတ်ဝန်းကျင်ထိခိုက်မှုများကိုသတ်မှတ်ခြင်းနှင့် အကဲဖြတ်သတ်မှတ်ခြင်း**

စီမံကိန်းဆောင်ရွက်ရာမှ ဖြစ်ပေါ်လာနိုင်သော အကျိုးသက်ရောက်မှုများ၏ အကျိုးအပြစ်များကို ပတ်ဝန်းကျင်အပေါ်သက်ရောက်မှုမှ ရရှိလာမည့် ရလာဒ်များအပေါ်အခြေခံ၍ သတ်မှတ်ထားခြင်းဖြစ်ပါသည်။ ထိုမှတဆင့် ပတ်ဝန်းကျင်အပေါ် အန္တရာယ်ဖြစ်စေမည့် ဆောင်ရွက်မှုများအား ၎င်းတို့၏ အရေးပါမှုရှုထောင့်အသီးသီးမှ ရှုမြင်၍ အန္တရာယ်လျော့နည်းစေရန် တာဝန်ယူဆောင်ရွက်မည် ဖြစ်ပါသည်။

ပတ်ဝန်းကျင်အပေါ် အကျိုးအပြစ်များ သက်ရောက်မှုအနည်းဆုံးဖြစ်စေရန် ဦးတည်ဆောင်ရွက်မှုအပေါ် မူတည်၍ လုပ်ငန်းဆောင်ရွက်မှုအား အကဲဖြတ်မည် ဖြစ်ပါသည်။

မှန်ထုတ်လုပ်မှုလုပ်ငန်း၏ ပတ်ဝန်းကျင်အပေါ် ညစ်ညမ်းမှုဖြစ်စေသည့် အခြေခံအချက်များတွင် အောက်ဖော်ပြပါအချက်များ ပါဝင်ပါသည်။

- လေထုအတွင်းသို့အငွေ့များထုတ်လွှတ်ခြင်း
- ရေဆိုးစွန့်ထုတ်ခြင်း
- စွန့်ပစ်အစိုင်အခဲများ

**ဓါတ်ငွေ့များထုတ်လွှတ်ခြင်း**

မှန်ထုတ်လုပ်ရေးလုပ်ငန်းသည် မြင့်မားသောအပူချိန်နှင့် မြင့်မားသောစွမ်းအင်တို့ကို အသုံးပြုရပါသည်။ ယင်းကဲ့သို့ကုန်ကြမ်းပစ္စည်းများအား မြင့်မားသော အပူချိန်တွင် အပူပေးခြင်းကြောင့် အခိုးအငွေ့ဓာတ်ငွေ့များသည် ဘေးထွက်ပစ္စည်းများအဖြစ် ထွက်ပေါ်လာခြင်းဖြစ်ပါသည်။ လေထုအတွင်းသို့ အဓိကထုတ်လွှတ်သော ဓါတ်ငွေ့များမှာ လောင်စာများမီးလောင်ကျွမ်းရာမှ ထွက်ပေါ်လာသောအငွေ့များနှင့် ကာဗွန်နိတ်များပြိုကွဲရာမှ ထွက်ပေါ်လာသော ကာဗွန်ဒိုင်အောက်ဆိုဒ်ဓါတ်ငွေ့များ ဖြစ်ပါသည်။ အခြားဖြစ်နိုင်ဖွယ်ရှိသော ဓါတ်ငွေ့ထုတ်လွှတ်မှုများမှာ -

- ဆာလဖာဒိုင်အောက်ဆိုဒ် ($SO_2$)
- ကာဗွန်ဒိုင်အောက်ဆိုဒ် ($CO_2$)
- နိုက်တြိုဂျင်အောက်ဆိုဒ် (NO)
- အမှုန်အမွှားများ (ကုန်ကြမ်းပစ္စည်းများသယ်ဆောင်ခြင်း။ ရွှေ့ပြောင်းခြင်း၊ သိုလှောင်ခြင်းနှင့် ကုန်ကြမ်းရောစပ်စက်တို့မှ အမှုန်များမှာ လေထုအတွင်းသို့ ရောက်ရှိနိုင်ပါသည်။)

### ရေဆိုးထွက်ရှိမှု

အင်တာနေရှင်နယ်ဂလပ်(စ်)စက်ရုံ စီမံကိန်းအနေနှင့် စက်ရုံလည်ပတ်ပါက စက်မှုလုပ်ငန်း ရေဆိုးထွက်ရှိမည် ဖြစ်ပါသည်။ စက်မှုလုပ်ငန်းရေဆိုးသည် ထုတ်လုပ်မှုနည်းစဉ်အတွင်းရှိ အအေး ခံခြင်းနှင့် မှန်ကွဲရေဆေးခြင်းဌာနစိတ်များမှ အဓိကထွက်ရှိမည် ဖြစ်ပါသည်။ အဘယ်ကြောင့် ဆိုသော် ယင်းဌာနစိတ်များသည် လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအမြောက်အများ သုံးစွဲရလေ့ရှိပြီး အအေးခံခြင်းဌာနစိတ်မှ ထွက်ရှိလာသောရေကို စက်မှုလုပ်ငန်း စွန့်ပစ်ရေအဖြစ် စွန့်ပစ်လေ့ရှိသောကြောင့် ဖြစ်ပါသည်။

### စွန့်ပစ်အစိုင်အခဲများ

အစိုင်အခဲစွန့်ပစ်ပစ္စည်းများသည် ကုန်ကြမ်းရောစပ်ခြင်း၊ မီးပြင်းဖို၊ အအေးခံခြင်း၊ မီးဆေးခြင်းလုပ်ငန်းမှ စွန့်ပစ်ပစ္စည်းများနှင့် ထုပ်ပိုးခြင်းတို့မှ ထွက်ရှိနိုင်ပါသည်။ (မည်သို့ပင် ဆိုစေကာမူ မှန်ထုတ်လုပ်ရေးလုပ်ငန်းမှ ထွက်ရှိသော စွန့်ပစ်ပစ္စည်းများသည် အခြားစက်မှု လုပ်ငန်းများထက်များစွာ နည်းပါသည်။)

ထုတ်လုပ်မှုနည်းစဉ်တစ်လျှောက်လုံးမှ လေထုအတွင်းထုတ်လုပ်မှု လျော့နည်းစေရန် စက်ပြုပြင်ထိန်းသိမ်းရေးအား အချိန်မှန်ဆောင်ရွက်ပြီး နည်းစဉ်တစ်လျှောက် ထုတ်လွှတ်မှု ဖြစ်နိုင်ချေရှိသည့် နေရာတိုင်းတင်းကြပ်စွာ စောင့်ကြည့်လည်ပတ်ရန် အင်တာနေရှင်နယ် ဂလပ်(စ်)ကုမ္ပဏီလီမိတက်မှ သေချာစွာတာဝန်ယူ ဆောင်ရွက်မည်ဖြစ်ပါသည်။ စက်ရုံမှထွက်လာ မည့် စွန့်ပစ်အစိုင်အခဲများကိုလည်း ထိန်းချုပ်မည်ဖြစ်ပြီး မီးပြင်းဖိုအတွင်း မီးရှို့မှုဖြစ်စဉ်အရ ပေါ်ထွက်လာမည့် လေထုညစ်ညမ်းမှုအားလည်း အနည်းဆုံးဖြစ်ရန် တာဝန်ယူ အာမခံပါသည်။ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုဆိုင်ရာ စီမံချက်နှင့်အညီ ကျင့်သုံးဆောင်ရွက်မည် ဖြစ်ပါသည်။

### လုပ်ငန်းခွင်ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းရေး

မှန်ထုတ်လုပ်ရေးစီမံကိန်းများ၏ သိသာထင်ရှားသော လုပ်ငန်းခွင်အတွင်း ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် ထိခိုက်မှုခေါ်စေနိုင်သော အဆင့်မှာ ထုတ်လုပ်ရေးအဆင့်ပင် ဖြစ်ပါသည်။ ယင်းထိခိုက်မှုဖြစ်စေနိုင်သော အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

- အပူချိန်မြင့်မားမှုအန္တရာယ်
- ဆူညံမှုအန္တရာယ်
- အသက်ရှူလမ်းကြောင်းဆိုင်ရာ အန္တရာယ်
- ထိခိုက်မှုအန္တရာယ်
- လျှပ်စစ်ပိုင်းဆိုင်ရာအန္တရာယ်

အင်တာနေရှင်နယ်ဂလပ်(စ်)ကုမ္ပဏီလီမိတက်၏ အထက်ဖော်ပြပါ ထိခိုက်မှုအချက် အားလုံးကို လေ့လာသိရှိထားပြီး အရေးယူဆောင်ရွက်မည့် အခြေအနေများကို ပူးတွဲပါဇယားဖြင့် ဖော်ပြထားပါသည်။

ကျောက်ဆည်မှန်ထုတ်လုပ်ရေးစက်ရုံ၏ စက်လည်ပတ်စဉ် ပတ်ဝန်းကျင်အပေါ် အကျိုး
သက်ရောက်မှု အခြေအနေပြဇယား

| သက်ရောက်မှု | လုပ်ငန်းသဘာဝ | သက်ရောက်မှု | ကြာချိန် | အဆင့် | ဖြစ်နိုင်ချေ ရှိ/ မရှိ | အကျိုးသက်ရောက်မှု | |
|---|---|---|---|---|---|---|---|
| | | | | | | EMP မလုပ်မီ | EMP လုပ်ဆောင်ပြီး |
| - မီးပြင်းဖိုနှင့် အအေးခံလုပ်ငန်းစဉ် အတွင်းမှလေထုအတွင်းသို့ ထုတ်လွှတ်မှု<br>- ဆာလဖာဒိုင်အောက်ဆိုဒ်<br>- ကာဗွန်ဒိုင်အောက်ဆိုဒ်<br>- နိုက်တြိုဂျင်အောက်ဆိုဒ် ကုန်ကြမ်းပစ္စည်းများ သယ်ယူပို့ဆောင် သိုလှောင်ရာစပ်ရာမှ ထွက်ရှိလာသည့် အနယ်အမှုန်များ | မှန်ထုတ်လွှတ်မှုတွင် မြင့်မားသော အပူချိန်၊ စွမ်းအင်မြင့် ဆောင်ရွက်မှုများရှိပြီး မီးရှို့မှုဖြစ်စဉ်များမှ ဘေးထွက်ပစ္စည်းများဖြစ်သည့် $SO_2$, $CO_2$ နှင့် $NO_x$ ထုတ်လုပ်မှုများရှိပါသည်။ ထို့အပြင် မြင့်မားသော အပူချိန်ကြောင့်လေထုအတွင်းရှိ နိုက်တြိုဂျင်ဓါတ်ငွေ့များကိုလည်း ဓါတ်တိုးစေပါသည်။ | ဒေသဝန်းကျင် | ကာလရှည် | နည်း | ရှိ | အသင့်အတင့် | နည်းပါး |
| ကုန်ကြမ်းပြုပြင်သည့်နေရာ၊ မီးပြင်းဖိုများ၊ အအေးခံလုပ်ငန်း စဉ်နှင့် ထုပ်ပိုးမှု ဆောင်ရွက်စဉ်တို့တွင် အစိုင်အခဲ စွန့်ပစ်ပစ္စည်းများ ထွက်ရှိပါသည်။ | စွန့်ပစ်ပစ္စည်းများအားလုံးသည်ပတ်ဝန်းကျင်တွင် သဘာဝပတ်ဝန်းကျင်၏ ဂေဟစနစ်ကို ထိခိုက်စေနိုင်ပြီး တစ်ချိန်တွင်ဘေးအန္တရာယ်ရှိလာနိုင်ပါသည်။ | စက်ရုံဝန်းကျင် | ကာလရှည် | အသင့်အတင့် | ရှိ | နည်း | နည်းပါး |
| ဖန်လုံအိမ်ဓါတ်ငွေ့ များ (GHG) | မှန်ထုတ်လုပ်ရေးသည် ဖန်လုံအိမ်ဓါတ်ငွေ့(GHG) ထုတ်လွှတ်ရေး၏ အဓိကအစိတ်အပိုင်းတစ်ခုဖြစ်ပြီး အထူးသဖြင့် ကာဗွန်ဒိုင်အောက်ဆိုဒ် ($CO_2$) ဓါတ်ငွေ့ ဖြစ်သည်။ | စက်ရုံဝန်းကျင် | ကာလရှည် | အသင့်အတင့် | ရှိ | အသင့်အတင့် | နည်းပါး |

| | | | | | | | |
|---|---|---|---|---|---|---|---|
| သက်ရှိသတ္တဝါနှင့် အပင်တို့၏ ဂေဟ စနစ်အား ပျက်ပြယ် စေပြီး သဘာဝဂေဟ စနစ်အား အနှောက် အယှက်ပေးပါသည်။ | မှန်အမြောက်အများ ထုတ်လုပ်ရာမှထွက် ပေါ်လာသည့် အသံ များ၊ အလုပ်သမားများ ၏ လှုပ်ရှားမှုများနှင့် သယ်ယူပို့ဆောင်ရေး စနစ်များကြောင့် ပတ်ဝန်းကျင် ဂေဟ စနစ်အား ထိခိုက်စေ ပါသည်။ | စက်ရုံ ဝန်း ကျင် | ကာ လ ရှည် | နည်း | ရှိ | အသင့် အတင့် | နည်းပါး |
| စွန့်ပစ်ရေ<br>- စက်မှုလုပ်ငန်း စွန့်ပစ်ရေ စွန့်ထုတ်မှု | - အအေးခံခြင်းနှင့် မှန်ကွဲ၊ မှန်ကျိုးများ ဆေးကြောခြင်းသည် ရေအမြောက်အမြား သုံးစွဲရပါသည်။ | စက်ရုံ ဝန်း ကျင် | ကာ လ ရှည် | အ သင့် အ တင့် | ရှိ | အသင့် အတင့် | နည်း |
| ဆူညံမှု | ဆူညံသံရှိသည့်လုပ်ငန်း ခွင်အတွင်းလုပ်ဆောင် ရသူများ အနေဖြင့် အကြားအာရုံချို့ယွင်းမှု ကို ဖြစ်စေပါသည်။ | စက်ရုံ ဝန်း ကျင် | ကာ လ ရှည် | အ သင့် အ တင့် | ရှိ | အသင့် အတင့် | နည်းပါး |
| အသက်ရှူလမ်းကြောင်း အန္တရာယ် (ဖုန်မှုန့်များ၊ အငွေ့များနှင့် အဆိပ် အတောက်ဖြစ်စေနိုင်သော ဓါတ်ငွေ့ များထုတ်လွှတ်မှု) | လက်ရှိအနေအထား တွင် လုပ်ငန်းခွင် ကျန်းမာရေးဆိုင်ရာ အန္တရာယ်ရှိနေ နိုင်ပါသည်။ | စက်ရုံ ဝန်း ကျင် | ကာ လ ရှည် | အ သင့် အ တင့် | ရှိ | အသင့် အတင့် | နည်းပါး |
| ကျောက်ဆည်နှင့် အနီးဝန်းကျင်ကျေးရွာများ ၏ လူနေထူထပ်မှု | လူမှုရေး ပဋိပက္ခများ ဖြစ်ပေါ်နိုင်ပြီး HIV နှင့် AIDS ရောဂါကူးစက်မှု အန္တရာယ်မြင့်မားနိုင်ပါ သည်။ အခြား လိင်ဆက်ဆံရာမှ ကူးစက်နိုင်သည့်ရောဂါ များလည်း (STDs) ဖြစ်နိုင်ပါသည်။ | စက်ရုံ ဝန်း ကျင် | ကာ လ ရှည် | အ သင့် အ တင့် | ရှိ | များ | အသင့် အတင့် |
| လူမှုရေးပြဿနာ | ဘာသာ၊ အယူဝါဒ ကွဲပြားခြားနားသူများ | စက်ရုံ ဝန်း | ကာ လ | အ သင့် | ဖြစ် နိုင် | အသင့် အတင့် | နည်းပါး |

| | | | | | | | |
|---|---|---|---|---|---|---|---|
| | အတွင်း ထိပ်တိုက် ရင်ဆိုင်ဖြေရှင်းရမှုများ ပေါ်ပေါက် နိုင်ပါသည်။ | ကျင် | တို | အ တင့် | ချေ | | |
| ဒေသတွင်း ဖွံ့ဖြိုးတိုးတက်မှု | ဒေသခံအလုပ်အကိုင် အခွင့် အလမ်းရရှိခြင်း (လုပ်သားဦးရေ ၁၅၀၀ ခန့် လိုအပ်)၊ လူနေမှု အဆင့်အတန်း မြင့်မားလာခြင်း | ဒေသ ဆိုင် ရာ | ကာ လ ရှည် | မြင့် မား | ရှိ | မြင့်မား | မြင့်မား |

**ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (EMP)**

ကျောက်ဆည်မှန်စက်ရုံ၏ ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (EMP) စီမံကိန်း ဆောင်ရွက်မှု၊ လုပ်ငန်းလည်ပတ်မှုများမှ ပေါ်ထွက်လာမည့် ရေရှည်အကျိုးသက်ရောက်မှုများအား လျော့ချနိုင်ရေးအတွက် စီမံရေးဆွဲထားခြင်း ဖြစ်ပါသည်။ ပတ်ဝန်းကျင်အား လေထုညစ်ညမ်းမှု၊ ရေဆိုးနှင့် အစိုင်အခဲအညစ်အကြေး စွန့်ထုတ်မှုအစီအမံများနှင့် ၎င်းတို့၏ဆိုးကျိုး ဖြစ်ပေါ်နိုင်ချေရှိ/မရှိ စောင့်ကြည့်စစ်ဆေးရေး အစီအစဉ်များ ထည့်သွင်း ရေးဆွဲထားပါသည်

**ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ်**

| သက်ရောက်မှု | အရေးယူဆောင်ရွက်ရန် |
|---|---|
| လေထုအတွင်းထုတ်လွှတ်မှု<br>- ထုတ်လုပ်မှုနည်းစဉ်အတွင်း မီးပြင်းဖိုများနှင့် အအေးခံလုပ်ငန်းစဉ်<br>- ဆာလဖာဒိုင်အောက်ဆိုဒ်<br>- ကာဗွန်ဒိုင်အောက်ဆိုဒ်<br>- နိုက်ထြိုဂျင်အောက်ဆိုဒ်များ | - ဓါတ်ငွေ့ထုတ်လွှတ်မှုလျော့ချပေးသောခေတ်မီ မီးပြင်းဖိုများကိုသုံးရန်<br>- ကုန်ကြမ်းသိုလှောင်ခြင်းနှင့် ပြုပြင်ခြင်းဌာနများအား အခြားလုပ်ငန်းနေရာ များမှ သီးခြားခွဲထုတ်ထားရန်<br>- ပြုပြင်ပြီးကုန်ကြမ်းအား အလုံပိတ်လှောင်ကန် များဖြင့် သိုလှောင်ရန်<br>- အမှုန်အထွက်နည်းစေရန်အတွက် ပြုပြင်ပြီး ကုန်ကြမ်းများအား ရေဖြန်းခြင်း (သို့) အယ်ကာလီ အရည် (ဆိုဒီယမ်ဟိုက်ဒြော့ဆိုဒ်၊ ဆိုဒီယမ်ကာဗွန် နိတ်) ဖြန်းခြင်းများပြုလုပ်ရန် (သို့) ကုန်ကြမ်းအမှုန့် များအား အလုံး၊ အခဲ၊ အတောင့် များပြုလုပ်ရန်<br>- တိကျစွာချိန်တွယ် အသုံးပြုသည့် အလေ့အထများ ပြုလုပ်ရန်<br>- မီးပြင်းဖိုသို့ ကုန်ကြမ်းများ သယ်ယူပို့ဆောင်စဉ် ကွန်ဗေယာစနစ်အားအပိတ်ထားရှိရန်၊ (ကွန်ဗေယာမှ မီးပြင်းဖို-အဝင်) |

| | |
|---|---|
| | - ပတ်ဝန်းကျင် လုပ်ငန်းခွင် လေထုအားစစ်ဆေး၍ သတ်မှတ်ချက်ထက်ကျော်လွန်ပါက လိုအပ်သော လုပ်ဆောင်ချက်များဆောင်ရွက်ရန်<br>- မီးပြင်းဖိုအဝင်တွင်လိုအပ်သောထိန်းချုပ်မှုများ ဆောင်ရွက်ရန်<br>(၎င်းမှာ - မီးလောင်မှုစွမ်းအား မြင့်တက်ရန် အတွက် ဖိအားကို (<10Pa) ဝန်းကျင် ထားရန်၊ သို့သော် အမှုန်ထုတ်လွှတ်မှု ထိန်းနိုင်ရန် အမှုန်စစ် ဇကာများ ထားရှိခြင်း၊ screw feeder များအား ဖုံးအုပ်ထားခြင်း၊ feed pocket များ အသုံးပြုခြင်းတို့ ပြုလုပ်ရန် |
| အစိုင်အခဲစွန့်ပစ်ပစ္စည်းများ<br>- ကုန်ကြမ်းပြုပြင်ရုံ၊ မီးပြင်းဖို၊အအေးခံ လုပ်ငန်းစဉ်နှင့် ထုပ်ပိုးခြင်း | - စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲရေးစီမံချက်ရေးဆွဲ အကောင်အထည်ဖော်ရန်၊ ထွက်ရှိအမှိုက်များအား မျိုးအစားအလိုက် သီးခြားစွန့်ပစ်ရန်၊ ပြန်လည်အသုံးပြုနိုင်မည့်နည်းလမ်းများရှာဖွေရန် |
| ဖန်လုံအိမ်ဓါတ်ငွေ့များ (GHG) | - မှန်အကျိုးအကြေများကို ပိုမို တိုးသုံးစွဲခြင်းဖြင့် စွမ်းအင်ကို ပိုမိုအကျိုးရှိစွာသုံးနိုင်ခြင်း၊ ကာဗွန်နိတ်ကုန်ကြမ်းအား အတိုင်းအတာတစ်ခု သတ်မှတ်သုံးစွဲစေခြင်း<br>- ကုန်ကြမ်းပြုပြင်ရာတွင် မှန်အကျိုးအကြေအချိုးတိုးမြှင့် သုံးစွဲစေခြင်း<br>- VFD စနစ်သုံး လေမှုတ်ပန်ကာကြီးများ သုံးစွဲရန်<br>- မီးပြင်းဖိုမှ ထွက်လာသော fule gas အပူကိုပြန်လည်ထုတ်ယူပြီး ကုန်ကြမ်းနှင့် မှန်အကျိုးအကြေများအား အပူပေးရာတွင် အသုံးပြုရန်<br>- မီးသွေး၊ ကျောက်မီးသွေးများအစား သဘာဝဓါတ်ငွေ့တို့ ကို မီးထိုးရန် အသုံးပြုရန်။ |
| သဘာဝပတ်ဝန်းကျင်အား အနှောက်အယှက်ပြုခြင်း၊ သက်ရှိသတ္တဝါများနှင့် အပင်များ၏ သဘာဝ ဂေဟစနစ်အား ပျက်စီးစေခြင်း | - သတ်မှတ်ထားသောနေရာများတွင် ကန့်သတ်ချက်များ ချမှတ်ဆောင်ရွက်ရန် |
| ရေဆိုး<br>- စက်မှုလုပ်ငန်းရေဆိုးစွန့်ထုတ်ခြင်း | - လုပ်ငန်းအတွင်းရေကို လှည့်ပတ်သုံးစွဲရန်<br>- ထွက်ရှိလာသောရေဆိုးအား ပြန်လည်အသုံးပြုရန် |
| ဆူညံသံ | - နားကြပ်များနှင့် အခြား တစ်ကိုယ်ရေသုံး အကာအကွယ်ပစ္စည်း (PPE) များသုံးစွဲရန်<br>- ဆူညံသောနေရာများတွင် တိုက်ရိုက်လုပ်ကိုင် နေရသောလုပ်သားများအား အဆင့်မြင့် စက်မှုသုံးနား |

| | |
|---|---|
| | ကြပ်များ (သို့) နားအုပ်များထုတ် ပေးထားရန်<br>- အသံဆူညံသော စက်ကိရိယာများနှင့် လုပ်ငန်းဆောင်ရွက်မှုများအား သီးခြားနေရာပေးဆောင်ရွက်စေရန်<br>- အဆောက်အဦပြင်ပတွင် ဆောင်ရွက်ရသော အသံထွက်သည့် လုပ်ငန်းများအား နေ့ပိုင်းတွင်သာ ဆောင်ရွက်ရန်<br>- နေရာဒေသ လိုအပ်ချက်အပေါ်လိုက်၍ အသံထိန်းနံရံများထားရန် (သို့) ဆောက်လုပ်ရေးလုပ်ငန်းခွင်နှင့် အခြားနေရာကြား သဘာဝအကာအရံ အဖြစ်အပင်များ စိုက်ပျိုးထားရန် |
| အသက်ရှုလမ်းကြောင်းအန္တရာယ် (အမှုန်များ၊ အငွေ့များနှင့် အဆိပ်အတောက်ဖြစ်စေသော ဒြပ်ပေါင်းများမှ ထုတ်လွှတ်မှုများ) | - ကုန်ကြမ်းသိုလှောင်ရုံ၊ ပြုပြင်ရုံများအား အခြားလုပ်ငန်းခွင်များမှ သီးခြားခွဲထားရန်<br>- ကုန်ကြမ်းအတင်အချပြုလုပ်မှုကိုတိကျစွာဆောင်ရွက်နိုင်ရေး အလေ့အကျင့်လုပ်ပေးရန်<br>- ပြုပြင်ပြီးကုန်ကြမ်းများအား မီးပြင်းဖိုသို့ သယ်ယူပို့ဆောင်ရာတွင် ဖုံးအုပ်ထားသော conveyor များ (သို့မဟုတ်) ပြွန်များမှ တဆင့် ပို့ဆောင်ရန်<br>- ကုန်ကြမ်းပြုပြင် သိုလှောင်သည့် နေရာများအား လေဝင်လေထွက်ကောင်းအောင် ဆောင်ရွက်ထားရန်<br>- အောက်ဆီဂျင်လှောင်ကန်များအား အဆောက်အဦများ အခြားစက်ကိရိယာများနှင့် အနည်းဆုံး ပေ ၅ဝ (၁၅ မီတာ) အကွာတွင် ထားရှိရန်။ |
| ကျောက်ဆည်မြို့နှင့် အနီးဝန်းကျင်ကျေးရွာများ၏ လူနေထူထပ်မှု | - မိမိဝန်ထမ်းများအား လူမှုဆက်ဆံရေးနှင့် လိင်ပိုင်းဆိုင်ရာအပြုအမူများနှင့် ပတ်သတ်၍ ပညာပေးခြင်း ဆောင်ရွက်ရန်<br>- လုပ်ငန်းခွင်အတွင်း လူမှုဆက်ဆံရေးနှင့် ပတ်သက်၍ ကုမ္ပဏီမှ တင်းကြပ်သော စည်းမျဉ်း၊ စည်းကမ်း၊ ဥပဒေသများချမှတ် ဆောင်ရွက်ရန် |
| လူမှုရေးပြဿနာ | - ဒေသခံများနှင့် တွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ရန်၊ ဒေသခံများနှင့် လာရောက်လုပ်ကိုင် သူများအကြား ဆက်ဆံရေးနှင့် ပတ်သက်၍ လမ်းညွှန်ချက်များ ကြိုတင်အသိပေး ထုတ်ပြန်ထားရန်။ |
| ဒေသတွင်းဖွံ့ဖြိုးရေး | - ဒေသခံများဝင်ငွေတိုးတက်လာရန်အတွက် အထွေထွေလုပ်သား လိုအပ်ချက်အား ဒေသခံများ ဖြင့်သာ ဖြည့်ဆည်းရန်။ |

| | |
|---|---|
| | - အင်တာနေရှင်နယ်ဂလပ်(စ်)ကုမ္ပဏီလီမိတက်သည် ဒေသတွင်း လူမှုရေးကိစ္စများတွင်လည်း တတပ်တအားပါဝင်ပူးပေါင်းဆောင်ရွက်ပါမည်။ |

**ပတ်ဝန်းကျင်စောင့်ကြည့်စစ်ဆေးရေးအစီအစဉ်**

ထုတ်လုပ်မှုကာလအတွင်း စောင့်ကြပ်ကြည့်ရှုရေး လုပ်ငန်းများကို ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်အတိုင်း ဆောင်ရွက်ခြင်းဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းခြင်းနှင့် ထိခိုက်မှုလျော့နည်းအောင် ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

စောင့်ကြည့်စစ်ဆေးမှု အစီအစဉ်အသေးစိတ်အား ပူတွဲဇယားဖြင့် ဖော်ပြထားပါသည်။

**လုပ်ငန်းလည်ပတ်ခြင်းဆောင်ရွက်မှုအဆင့်ပတ်ဝန်းကျင်ဆိုင်ရာစောင့်ကြည့်စစ်ဆေးရေးအစီအစဉ်**

| သက်ရောက်မှု | စောင့်ကြည့် နည်းစဉ် | သတ်မှတ်ချက် | နေရာ | အကြိမ်အရေအတွက် |
|---|---|---|---|---|
| လေထုအရည်အသွေး | တိုင်းတာခြင်း/ နမူနာယူခြင်း | $PM_{2.5}$/ $PM_{10}$ | ကုန်ကြမ်းရောစပ်ခြင်း | အမြဲတမ်း |
| | | $NO_x$ , $SO_x$ | အရည်ပျော်မီးပြင်းဖို | လေးလတစ်ကြိမ် |
| | | $PM_{2.5}$/ $PM_{10}$ | ကုန်ကြမ်းသိုလှောင်ရုံ၊ မီးပြင်းဖိုခေါင်းတိုင် | လေးလတစ်ကြိမ် |
| | | အပူချိန်၊ အောက်ဆီဂျင်ပါဝင်မှု၊ မီးလောင်မှုစွမ်းအား | မီးလောင်ရာနေရာအားလုံး | တစ်နှစ် ၂ ကြိမ် |
| | | ပတ်ဝန်းကျင်လေထု $PM_{2.5}$/ $PM_{10}$, $NO_x$ နှင့် $SO_x$ | အနီးဝန်းကျင်ကျေးရွာများ၊ နယ်မြေဒေသနှင့် စက်ရုံဧရိယာအတွင်း | တစ်နှစ် ၂ ကြိမ် |
| ဆူညံသံ | တိုင်းတာခြင်း | Leq (dB(A)) | စီမံကိန်းဧရိယာပြင်ပ အသံပျံ့နှံ့နိုင်သော နေရာများ | တစ်နှစ် ၂ ကြိမ်နှင့် တိုင်ကြားမှုပေါ်မူတည်၍ |
| ရေ | နမူနာယူခြင်း | အပူချိန်၊ PH, ဆီပါဝင်မှု၊ ဓာတုနည်းစဉ်အရပြုကွဲရန်လိုအပ်သောအောက်စီဂျင် | ရေတွင်းရေကန်များ၊ ချောဆီစုကန်၊ ဆီ/ရေခွဲစက် များ၊ ရေဆိုး၊ ရေသန့်စင် စက်ရုံအဝင်နှင့် အထွက် | လေးလတစ်ကြိမ် |

| | | | | |
|---|---|---|---|---|
| | | ပမာဏ (COD)၊ အမှုန်အမွှားပါဝင်မှု | | |
| အစိုင်အခဲ စွန့်ပစ်ပစ္စည်း | စာရင်းစစ်ခြင်း၊ ဓါတ်ပုံမှတ်တမ်း များ၊ တွေ့ဆုံ မေးမြန်းခြင်းများ | ထုတ်လုပ်၊ သိုလှောင်၊ ပြန်လည်အသုံးပြု သယ်ဆောင်ခြင်း နှင့်စွန့်ပစ်ခြင်း | ဌာနစိတ်အသီးသီး | လေးလ တစ်ကြိမ် |
| ဇီဝမျိုးစုံ မျိုးကွဲများ | မျက်မြင်စစ်ဆေး ခြင်း၊ ဓါတ်ပုံမှတ် တမ်းများထား ရှိခြင်း | ယေဘုယျ သစ်တောဖုံးလွှမ်းမှု အခြေအနေ | စက်ရုံဝန်းကျင်နှင့် ပတ်ဝန်း ကျင်မြေယာရှုခင်းဧရိယာ | နှစ်စဉ် |
| သယံဇာတ အသုံး | တိုင်းတာခြင်း<br><br>စာရင်းစစ်ခြင်း | ရေနှင့်စွမ်းအင် သုံးစွဲမှု<br>ကုန်ကြမ်းသုံးစွဲမှု | ဌာနစိတ်နှင့် အထောက် အကူပြုအခြေအနေ<br>ဌာနစိတ်နှင့် အထောက် အကူပြုအခြေအနေ | စဉ်ဆက် မပြတ်<br>စဉ်ဆက် မပြတ် |
| ဥပဒေရေးရာ လိုက်နာ ဆောင်ရွက်မှု | စက်ရုံအလုပ်ရုံ ထုတ်လုပ်ဖြန့်ဖြူး ခြင်းနှင့်ဆိုင်သော ဥပဒေသများ | ဥပဒေပါအချက် အလက်များ | စက်ရုံတွင်း သက်ဆိုင်ရာ ဌာနခွဲများအလိုက် လိုက်နာဆောင်ရွက်ခြင်း | စဉ်ဆက် မပြတ် |
| ရှေးဟောင်း အမွေအနှစ် များထိခိုက် နိုင်မှု | လေ့လာစောင့် ကြည့်မှတ်တမ်း တင်ခြင်း | ရှေးဟောင်းယဉ် ကျေးမှုဦးစီးဌာနမှ သတ်မှတ်သည့် ကာလသက်တမ်း အလိုက်ဆောင် ရွက်ခြင်း | စီမံကိန်းဧရိယာ ၅ ကီလိုမီတာ အတွင်း | စဉ်ဆက် မပြတ် |
| ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေး | ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေး တိုင်းတာမှုများ | PPE များ စနစ် တကျသုံးစွဲရန်၊ သတိပေးစာတမ်း များချိတ်ထားရန်၊ ရှေးဦး သူနာပြုဆေး သေတ္တာထားရန်၊ မီးသတ်ဆေးဘူး များ၊ထိခိုက်/ဖျားနာ မှတ်တမ်းများ၊ မတော်တဆ ထိခိုက်မှုမှတ်တမ်း | သက်ဆိုင်ရာဌာန၊ စီမံကိန်းနှင့် ပင်မလမ်းမကြီး ချိတ်ဆက်ရာ လမ်းတလျှောက် | စဉ်ဆက် အပြတ် |

| | | | | |
|---|---|---|---|---|
| မီးဘေး အန္တရာယ် | စောင့်ကြည့် စစ်ဆေး စမ်းသပ်ခြင်း | လေနှင့် အမှုန် အရောအနှော အတွင်း $O_2$ ပါဝင် နှုန်းစစ်ဆေးခြင်း (အလိုအလျောက် ထိန်းချုပ်) | ကုန်ကြမ်းနှင့် ကုန်ချော သိုလှောင်ထိန်းသိမ်းရာ နေရာများ၊ ဟိုက်ဒြိုဂျင်နှင့် နိုက်ဒြိုဂျင်ထုတ်လုပ်သည့် စက်ရုံများ | အမြဲတမ်း |
| လူမှုစီးပွားရေး | ကွင်းဆင်း လေ့လာ တွေ့ဆုံ မေးမြန်းခြင်း | ဌာနေလူထု<br><br>ဝန်ထမ်းအင်အား စာရင်း | စက်ရုံနှင့် အနီးဝန်းကျင်<br><br>စက်ရုံ | တစ်နှစ်<br><br>တစ်ကြိမ် အမြဲတမ်း |
| လုပ်ငန်းလည် ပတ်စောင့် ကြည့်စစ်ဆေး ခြင်း | မျက်မြင် အခြေအနေ စစ်ဆေးခြင်း မှတ်တမ်းတင်ခြင်း | ထုတ်လုပ်မှုနှုန်း ဓါတ်ငွေ့စီးဆင်း နှုန်း၊ စက်ကိရိယာ များ၊ ဗားများ၊ အပူချိန်၊ ပုံမှန် မဟုတ်သော မှတ်တမ်းများ၊ ဝန်ပိုများ၊ စက်ရပ်ခြင်းများ | ဌာနအားလုံး၊ အဓိကစက်ကိရိယာများ၊ ဟိုက်ဒြိုဂျင်နှင့် နိုက်တြိုဂျင် ဓါတ်ငွေ့ထုတ်စက်ရုံများ | နေ့စဉ် |

နိဂုံးချုပ်အနေအားဖြင့် ကျောက်ဆည်မှန်စက်ရုံလုပ်ငန်း စီမံချက်သည် ဒေသတွင်း စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို မလွဲမသွေရရှိစေမည်ဖြစ်ပြီး လုပ်ငန်းအကောင်အထည်ဖော်ဆောင် ရွက်မှုသည် လက်ရှိလုပ်ငန်းများ လုပ်ကိုင်ရန်ဖော်ထုတ်ပြီး ဧရိယာအတွင်း ဆောင်ရွက်မည် ဖြစ်သဖြင့် လုပ်ငန်းဆောင်ရွက်စဉ်အတွင်း ဖြစ်ပေါ်လာမည့် ပတ်ဝန်းကျင်အပေါ် သက်ရောက်မှု များသည် ကောင်းသောသက်ရောက်မှုများသာ ဖြစ်နိုင်ပါသည်။ ယင်းတို့အနက် အောက်ဖော်ပြပါ အချက်များသည် သိသာထင်ရှားသည့် သာဓကများ ဖြစ်သည်ကို တွေ့ရှိပါသည်။

- လုပ်ငန်းအဆင့် (၃) ဆင့်အတွင်း ကျွမ်းကျင်လုပ်သားများ၊ အထိုက်အလျောက် ကျွမ်းကျင်သူများနှင့် အထွေထွေလုပ်သားများအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်အခွင့် အလမ်း များရရှိလာမည်ဖြစ်ပါသည်။
- ဒေသခံများ၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပါသည်။
- ကောက်ခံရရှိသောအခွန်များမှ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်လာစေရန် တဖက်တလမ်းမှ အထောက်အကူပြုပါသည်။
- စီမံကိန်းကြောင့် မိသားစုဝင်ငွေများ တိုးတက်လာပြီး လူနေမှုဘဝတိုးတက်မြင့်မား လာရေးအတွက်လည်း အထောက်အကူဖြစ်စေပါသည်။

ဆောက်လုပ်ရေးလုပ်ငန်းမှ လိုအပ်ချက်များကိုလည်း ဤစီမံကိန်းမှ ဖြည့်ဆည်းပေးနိုင်မည် ဖြစ်ပါသည်။ ဤစီမံကိန်း၏ အဓိကထိခိုက်နိုင်သည့်အချက်မှာ သဘာဝသယံဇာတများ ပိုမိုလိုအပ်

လာသဖြင့် သဘာပတ်ဝန်းကျင်အပေါ် ပြောင်းလဲမှုဖြစ်စေနိုင်မည့် အချက်ပင် ဖြစ်ပါသည်။ သို့ပါသော်လည်း ပေါ်ပေါက်လာနိုင်သည့် ထိခိုက်နိုင်မှုများအား လေ့လာဆန်းစစ်ပြီး၊ သင့်လျော်သော နည်းလမ်းများဖြင့် လျှော့ချကုစားကာ သေချာစွာ စောင့်ကြည့်စစ်ဆေးပါက ယင်းထိခိုက် နိုင်မှုများအား များစွာလျှော့နည်းသွားစေနိုင်မည် ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ဤအစီရင်ခံစာပါ အဆိုပြုလုပ်ငန်းစီမံချက်သည် ဆောင်ရွက်ခွင့်ပြုရန် သတ်မှတ်ချက်များနှင့် ကိုက်ညီပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။

**Green Myanmar**
**Environmental Services Co., Ltd**
No.115, Kanaung Min Thar Gyi Road, Industrial Zone (1), Hlaing Thar Yar Industrial City, Yangon, Myanmar
Tel: 01-685572, 01-685571, 09-5081451, 09-5122448 E-mail: gmescompany@gmail.com

စာအမှတ် - 071/IG -GMES/EIA/EMP/2017
ရက်စွဲ ။ ။ ၂၀၁၇ခုနှစ်၊ မေလ (၃၀) ရက်။

သို့

မန်နေဂျင်းဒါရိုက်တာ
International Glass Co., Ltd.
ရန်ကုန်မြို့။

**အကြောင်းအရာ။ ။ မှန်စက်ရုံ(ကျောက်ဆည်)စီမံကိန်းလုပ်ငန်း၏ ကနဦးပတ်ဝန်းကျင်ဆိုင်ရာလေ့လာဆန်းစစ်ခြင်းအစီရင်ခံစာအတွက်လူထုတွေ့ဆုံပွဲပြုလုပ်မည့်အစီအစဉ်တင်ပြခြင်း။**

အထက်ပါအကြောင်းအရာကိစ္စနှင့်ပတ်သက်၍

၁။ မှန်စက်ရုံ(ကျောက်ဆည်)စီမံကိန်းအတွက် ကနဦးပတ်ဝန်းကျင်ဆိုင်ရာလေ့လာဆန်းစစ်ခြင်း အစီရင်ခံစာ ရေးသားပြုစုနိုင်ရေးအတွက် ဒေသခံကျေးရွာများမှရပ်မိရပ်ဖများ၊ အနီးပတ်ဝန်းကျင်ရှိစက်ရုံများမှ တာဝန်ရှိသူများ၊ ဒေသဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းများ နှင့် တွေ့ဆုံဆွေးနွေးပွဲပြုလုပ်ရမည် ဖြစ်ပါသည်။

၂။ တွေ့ဆုံပွဲပြုလုပ်နိုင်ရေးအတွက် (၆/၆/၂၀၁၇)ရက်နေ့ခန့်တွင် ကျင်းပရန်စီစဉ်ထားရှိပြီး ၎င်းအတွက် အကျဉ်းချုပ်အစီရင်ခံစာ ဖြန့်ဝေခြင်းနှင့်ဖိတ်စာဖိတ်ခြင်းလုပ်ငန်းများကို တစ်ပတ်ကြိုတင်က (၃၁/၅/၂၀၁၇)ရက်နေ့တွင် ဖြန့်ဝေဖိတ်ကြားသွားရန် စီစဉ်ထားရှိပါသည်။

၃။ တွေ့ဆုံပွဲကျင်းပပြုလုပ်မည့်နေရာကို မှန်စက်ရုံ(ကျောက်ဆည်) အစည်းအဝေးခန်းမတွင် ပြုလုပ်ရန် စီစဉ်ညှိနှိုင်းလျက်ရှိပါသည်။ တွေ့ဆုံပွဲတွင် စီမံကိန်းအကြောင်းအရာနှင့်ပတ်သက်၍ International Glass Co., Ltd. ၏ တာဝန်ရှိသူတစ်ဦးမှရှင်းလင်းတင်ပြရန်ဖြစ်ပြီး ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းနှင့် ပတ်သက်သည့် အကြောင်းအရာများကို GMES Co., Ltd. မှ ရှင်းလင်းတင်ပြသွားမည်ဖြစ်ပါသည်။ တက်ရောက်လာသူများမှ မေးမြန်းချက်များနှင့်ပတ်သက်၍လည်း သက်ဆိုင်ရာတာဝန်ရှိသူအသီးသီးမှ ပြန်လည်ဖြေကြားပေးရမည်ဖြစ်ပါသည်။

၄။ တက်ရောက်လာသော ဧည့်သည်တော်များနှင့်ဒေသခံရပ်မိရပ်ဖများအား၊ ဧည့်ခံကျွေးမွေးခြင်း နှင့် ကုမ္ပဏီအမှတ်တရလက်ဆောင်ပစ္စည်းပေးအပ်ခြင်းတို့ကို သင့်လျော်သလို စီမံဆောင်ရွက်ပေးပါရန်နှင့် သိရှိနိုင်ပါရန် ပူးတွဲပါများနှင့်တကွ လေးစားစွာဖြင့်တင်ပြအပ်ပါသည်။

ပူးတွဲစာရင်း- ဖြန့်ဝေသွားမည့် မှန်စက်ရှု(ကျောက်ဆည်)၏

(က) အကျဉ်းချုပ်အစီရင်ခံစာ

(ခ) လက်ကမ်းစာစောင်

(ဂ) အခမ်းအနားဖိတ်ကြားမည့်လျာထားဌာနစာရင်း

မိတ္တူကို
-ရုံးလက်ခံ

လေးစားစွာဖြင့်

30/05/2017

Kyaw Soe Win
Managing Director
Green Myanmar Environmental Services Co., Ltd.

# မုန့်စက်ရုံ (ကျောက်ဆည်) စီမံကိန်းနှင့် ပတ်သက်၍ တွေ့ဆုံတွေးနွေးပွဲ အခမ်းအနားဖိတ်ကြားမည့် ဌာနများစာရင်း

၁။ ခရိုင်အုပ်ချုပ်ရေးမှူးရုံး၊ ကျောက်ဆည်ခရိုင်

၂။ မြို့နယ်အုပ်ချုပ်ရေးမှူးရုံး၊ ကျောက်ဆည်မြို့နယ်

၃။ မြို့နယ်စည်ပင်သာယာရေးကော်မတီ

၄။ မြို့နယ်ကျန်းမာရေးဦးစီးဌာန

၅။ မြို့နယ်မီးသတ်ဦးစီးဌာန

၆။ မန္တလေးတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

၇။ မန္တလေးတိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

၈။ ကျေးလက်ဖွံ့ဖြိုးရေးဦးစီးဌာန၊ ကျောက်ဆည်မြို့နယ်

၉။ ကျေးရွာအုပ်ချုပ်ရေးမှူးရုံး၊ ကုလားကျောင်း၊ ကျောက်ဆည်မြို့နယ်

၁၀။ ကျေးရွာအုပ်ချုပ်ရေးမှူးရုံး၊ ရှမ်းရွာကြီး၊ ကျောက်ဆည်မြို့နယ်

၁၁။ ကျေးရွာအုပ်ချုပ်ရေးမှူးရုံး၊ တောင်ပလူ၊ ကျောက်ဆည်မြို့နယ်

၁၂။ ကျေးရွာအုပ်ချုပ်ရေးမှူးရုံး၊ အရှေ့ရွာနန်း၊ ကျောက်ဆည်မြို့နယ်

၁၃။ စက်ရုံအလုပ်ရုံများ၊ ကျောက်ဆည်စက်မှုဇုန်၊ ကျောက်ဆည်မြို့နယ်

၁၄။ ရပ်ကွက်အုပ်ချုပ်ရေးမှူး၊ စက်ရုံများရပ်ကွက်။

**စီမံကိန်းအနီး လက်ရှိပတ်ဝန်းကျင်အခြေအနေ တိုင်းတာရာတွင် အသုံးပြုသည့် ပစ္စည်းကိရိယာများ**



HAZ- SCANNER



DUST TRAK PM meter



KANE 900 PLUS Combustion Analyser





Sound Level Meter (SL-4033SD)



Ultimeter Weather Station

## ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းအစီရင်ခံစာ (Initial Environmental Examination - IEE) ရေးဆွဲခြင်း

International Glass Co., Ltd. ၏ မှန်စက်ရုံ (ကျောက်ဆည်) စီမံကိန်းလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ခြင်းကြောင့် စီမံကိန်း ပတ်ဝန်းကျင်ဖြစ်သော မြေထု၊ ရေထု၊ လေထုနှင့် သက်ရှိ၊ သက်မဲ့စသည့် သဘာဝပတ်ဝန်းကျင် အပေါ် သက်ရောက်မှုများကို ဆန်းစစ်ကာ၊ စနစ်တကျ ဖော်ထုတ်တိုင်းတာအကဲဖြတ်ပြီး ဆိုးကျိုး သက်ရောက်မှုလျော့ပါးစေရန် နည်းလမ်းများကို လေ့လာဖော်ထုတ်မည် ဖြစ်ပါသည်။

ထိုသို့ လေ့လာဖော်ထုတ်ရရှိမှုကို အခြေခံ၍ လိုက်နာဆောင်ရွက်ရမည့် အစီအမံများ ဖြစ်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan – EMP) ရေးဆွဲခြင်းကို ဆောင်ရွက်ရန် ကြားနေအဖွဲ့အစည်းတစ်ခုမှ တာဝန်ယူဆောင်ရွက်ရမည်ဖြစ်ပါသည်။

မှန်စက်ရုံ(ကျောက်ဆည်) စီမံကိန်းလုပ်ငန်း အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) လုပ်ငန်းအတွက် GMES Co., Ltd. မှ တာဝန်ယူ ဆောင်ရွက်ခဲ့ခြင်း ဖြစ်ပါသည်။

**စီမံကိန်းနှင့်ပတ်သက်၍လိုအပ်သောအကြံပြုချက် များပေးကြပါရန် လေးစားစွာ မေတ္တာရပ်ခံအပ်ပါသည်။**

စိမ်းလန်းမြန်မာပတ်ဝန်းကျင်ဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်

# အင်တာနေရှင်နယ်ဂလပ်(စ်)ကုမ္ပဏီလီမိတက် (International Glass Co., Ltd.) ၏ မှန်စက်ရုံ(ကျောက်ဆည်)စီမံကိန်း

ယင်းစွဲတောင်ခြေအနီး၊ ကျောက်ဆည်စက်မှုနယ်မြေ၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး၊ မြန်မာနိုင်ငံ။



**စီမံကိန်းဆောင်ရွက်နေသည့် တည်နေရာပြမြေပုံ**

Green Myanmar
Environmental Services Co., Ltd
No.115, Kanaung Min Thar Gyi Road Industrial Zone (1), Hlaing Thar Yar Industrial City, Yangon, Myanmar
Tel: 01-685572, 01-685571, 09-5081451, 09-5122448 E-mail: gmescompany@gmail.com

## စီမံကိန်းအကြောင်းအရာ

International Glass Co., Ltd. သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှု လုပ်ငန်းအောက်ရှိ အမှတ်(၃၆) အကြီးစားစက်ရုံ (ကျောက်ဆည်)ကို နှစ်ရှည်ငှားရမ်းရေး ဆောင်ရွက်ရန်အတွက် အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းနှင့် International Glass Co., Ltd. တို့အကြား အကြို ဆွေးနွေးသဘော တူညီမှုစာလွှာ (Agreement of Discussion-AoD) ကို လက်မှတ်ရေးထိုးခဲ့ပြီး လုပ်ငန်းများစတင်ဆောင်ရွက် ခဲ့ပါသည်။

International Glass Co., Ltd. ၏ မှန်စက်ရုံ(ကျောက်ဆည်) စီမံကိန်းသည် မြေဧရိယာ အနေဖြင့် (၁၅၇.၇၁) ဧက ကျယ်ဝန်းပြီး ကျောက်ဆည်မြို့ အရှေ့ဘက် (၅) မိုင်အကွာ၊ ကျောက်ဆည်စက်မှုဇုန်၏ တောင်ဘက်တွင် တည်ရှိပါသည်။ ရန်ကုန်-မန္တလေး အမြန်လမ်းမကြီးမှ (၁၀.၂၁) ကီလိုမီတာကွာဝေးကာ စက်မှုဇုန်လမ်းမကြီး ပေါ်တွင် တည်ရှိပါသည်။

ထုတ်ကုန်အမျိုးအစားများမှာ အောက်ပါအတိုင်း ထုတ်လုပ်မည်ဖြစ်ပါသည်။

(က) အရောင်မှန် (Tinted Glass)

(ခ) မှန်အကြည် (Clear Glass)

(၁) ရိုးရိုးမှန်အကြည်

(၂) လွှာထပ်မှန် (Laminate Glass)

(၃) အားဖြည့်မှန် (Tempered Glass)

(၄)ကြည့်မှန် (Mirror) တို့ဖြစ်ပါသည်။

# International Glass Co., Ltd.

၏

## မှန်စက်ရုံ(ကျောက်ဆည်) စီမံကိန်းလုပ်ငန်း

## အတွက်

## ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း

(Initial Environmental Examination – IEE)

### အစီရင်ခံစာပြုစုရေးသားရန်အတွက် ဆောင်ရွက်ရသည့် လုပ်ငန်းစဉ်များ

၁။ စီမံကိန်းနှင့်ပတ်သက်သော အသေးစိတ်အချက်အလက်များကို လေ့လာစိစစ်ခြင်း။

၂။ စီမံကိန်းတည်နေရာ၊ အကျယ်အဝန်း၊ စီမံကိန်းကို ဖြိုင့်ဖော်ပြသည့် မြေပုံနှင့် နေရာချထားမှု ပုံစံများအား စီစစ်လေ့လာခြင်း။

၃။ ပတ်ဝန်းကျင်ဆိုင်ရာအခြေအနေများနှင့် ပတ်ဝန်းကျင်ထိခိုက်မှုများကို လေ့လာဆန်းစစ်ရန်အတွက် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း။

၄။ သတ်မှတ်ထားသော နယ်မြေအတွင်းရှိ မြေထု၊ ရေထု၊ လေထုအရည်အသွေး တိုင်းတာစစ်ဆေးခြင်းနှင့် အသံဆူညံမှု တိုင်းတာစစ်ဆေးခြင်း။

၅။ စီမံကိန်းဆိုင်ရာ အချက်အလက်များကို ဒေသခံအုပ်ချုပ်ရေးနှင့် လူမှုရေး အဖွဲ့အစည်းများသို့ တင်ပြခြင်း၊ တိုင်ပင်ဆွေးနွေးခြင်းနှင့် အကြံပြုချက်များရယူခြင်း

၆။ လေ့လာတိုင်းတာရရှိသော အချက်များနှင့် စီမံကိန်းလုပ်ငန်းစဉ်များအပေါ် မူတည်၍ ပတ်ဝန်းကျင်ထိခိုက်မှုများနှင့် လျော့နည်းစေရန် ဆောင်ရွက်မည့် အစီအစဉ်များ ဖော်ထုတ်သတ်မှတ်ခြင်း

၇။ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်များ ချမှတ်ခြင်း

၈။ အစီရင်ခံစာပြုစုတင်ပြခြင်း။

အထက်ပါလုပ်ငန်းစဉ်များကို Green Myanmar Environmental Services Co., Ltd. အနေဖြင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ထားပါသည်။

**စီမံကိန်းနှင့်ပတ်သက်၍လိုအပ်သော အကြံပြုချက်များ ပေးကြပါရန် လေးစားစွာ မေတ္တာရပ်ခံအပ်ပါသည်။**

စိမ်းလန်းမြန်မာပတ်ဝန်းကျင်ဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အင်တာနေရှင်နယ် ဂလာ့(စ်) ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# INTERNATIONAL GLASS COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အင်တာနေရှင်နယ် ဂလာ့(စ်) ကုမ္ပဏီ လီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် **အင်တာနေရှင်နယ် ဂလာ့(စ်) ကုမ္ပဏီ လီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /-( ကျပ် **သန်းငါးရာ** တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀.၀၀ /-( ကျပ် **တစ်သောင်း** တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်းရည်ရွယ်ချက်များမှာ-

(၁) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ
(၂) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများ၊
(၃) တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ
(၄) ရေထွက်ကုန်ပစ္စည်းများ၊
(၅) ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများ၊
(၆) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ၊
(၇) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ၊
(၈) အိမ်သုံးကုန်ပစ္စည်းများ၊
(၉) လူသုံးကုန်ပစ္စည်းများ၊
(၁၀) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများ
(၁၁) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ၊
(၁၂) ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများ၊
(၁၃) ကိရိယာတန်ဆာပလာအမျိုးမျိုး၊
(၁၄) ဆေးနှင့်ဆေးပစ္စည်းများ၊
(၁၅) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ၊
(၁၆) အထည်အလိပ်နှင့် အဝတ်အထည်များ၊
(၁၇) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ၊
(၁၈) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများ၊
(၁၉) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
(၂၀) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
(၂၁) တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
(၂၂) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
(၂၃) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
(၂၄) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂၅) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂၆) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂၇) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
(၂၈) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
(၂၉) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၀) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၁) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
(၃၂) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
(၃၃) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
(၃၄) ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
(၃၅) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
(၃၆) ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
(၃၇) သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
(၃၈) ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
(၃၉) တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
(၄၀) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
(၄၁) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
(၄၂) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
(၄၃) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
(၄၄) ဆောက်လုပ်ရေးလုပ်ငန်း၊
(၄၅) ကျောက်မျက်လုပ်ငန်း၊
(၄၆) ခရီးသွားလုပ်ငန်း၊
(၄၇) ဟိုတယ်လုပ်ငန်း၊
(၄၈) အသေးစား ငွေရေးကြေးရေးလုပ်ငန်း၊

(၂) ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း ၊ ကုမ္ပဏီ ၊ ဘဏ် ၊ သို့မဟုတ် ၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန် ။

**ခြွင်းချက်** ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော် အတွင်း ၌ ဖြစ်စေ ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရား ဥပဒေ များ ၊ အမိန့်ကြော်ငြာစာများ ၊ အမိန့်များ က ခွင့် ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများ ကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရား ဥပဒေပြဋ္ဌာန်းချက်များ ၊ အမိန့် ကြော်ငြာစာများ ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ၊ ခွင့်ပြုထားရှိခြင်း ရှိမှ သာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

